# ဖက်ဒရယ်ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
# ဖွဲ့စည်းပုံအခြေခံဥပဒေ
# (ဒုတိယမူကြမ်း)

# The Constitution of the Federal Republic of the Union of Burma
## (Second Draft)


ဖက်ဒရယ်ဖွဲ့စည်းပုံအခြေခံဥပဒေ (မူကြမ်း)
ရေးဆွဲရေးနှင့် ညှိနှိုင်းမှုကော်မတီ

**Federal Constitution Drafting and Coordinating Committee**
**(FCDCC)**



(Adopted on 12 February 2008)

ထုတ်ဝေနှစ်
၂၀၀၈ ခုနှစ် (ပထမအကြိမ်)

မူပိုင်
ဖက်ဒရယ်ဖွဲ့စည်းပုံအခြေခံဥပဒေ (မူကြမ်း)
ရေးဆွဲရေးနှင့် ညှိနှိုင်းမှုကော်မတီ
**FCDCC**

ထုတ်ဝေ၊ ဖြန့်ချီ
ဖက်ဒရယ်ဖွဲ့စည်းပုံအခြေခံဥပဒေ (မူကြမ်း)
ရေးဆွဲရေးနှင့် ညှိနှိုင်းမှုကော်မတီ
**FCDCC**

P. O. Box - 40
Mae Sot, Tak 63110
Thailand
&
P. O. Box - 49
Chiang Mai University
Chiang Mai, 50202
Thailand
Email: ncub@ncub.org
office@encburma.org
Website: www.encburma.org

Design & Layout:
Sai Mawn (UNLD-LA)

**With generous financial support from the Royal Danish Foreign Ministry and the Danish Burma Committee**

## မာတိကာ
## Contents

# နိဒါန်း (Preamble)

လွတ်လပ်မှု၊ တန်းတူမှု၊ တရားမျှတမှု တည်းဟူသော လောကပါလတရားကို ဦးထိပ်ထားလျက် ကျွန်ုပ်တို့ ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားတို့သည် ငြိမ်းချမ်းသာယာဝပြော၍ ထာဝစဉ်အစွန့်ရှည်တည်တံ့ခိုင်မြဲမည့် ဖက်ဒရယ်ပြည်ထောင်စုကို စုပေါင်းညီညာ တည်ဆောက်အံ့သောငှာ ဤဖက်ဒရယ်ပြည်ထောင်စုဖွဲ့စည်းပုံအခြေခံဥပဒေကို ရေးဆွဲပြဋ္ဌာန်းအပ်ပေသည်။

ဤ ဖက်ဒရယ်ပြည်ထောင်စုနယ်မြေအတွင်း၌ တိုင်းရင်းသားလူမျိုးပေါင်းစုံတို့သည် ရှေးပဝေသဏီကပင် ကိုယ့်ထီးကိုယ်နန်း ကိုယ့်ကြငှန်းဖြင့် လွတ်လပ်စွာနေထိုင်ခဲ့ကြပေသည်။ တိုင်းရင်းသားလူမျိုးပေါင်းစုံတို့သည် သမိုင်းခေတ်အဆက်ဆက်တွင် သီးခြားလွတ်လပ်စွာ နေထိုင်ခဲ့ကြသော်လည်း ဗြိတိသျှကိုလိုနီနယ်ချဲ့၏ သိမ်းပိုက်မှုအောက်တွင် နှစ်ပေါင်းများစွာ အတူတကွကျွန်ပြုခြင်း ခံခဲ့ကြရပါသည်။ ထို့ကြောင့် မိမိတို့ ဆုံးရှုံးခဲ့ကြသော လွတ်လပ်ရေးနှင့် အချုပ်အခြာအာဏာတို့ကို အတူတကွ ပြန်လည်ရယူပြီး ပြည်ထောင်စုကြီးကိုပါ တပြိုင်နက်ထူထောင်ရန် ပင်လုံညီလာခံကြီးကို ၁၉၄၇ခုနှစ်တွင် ခေါ်ယူကျင်းပခဲ့ကြသည်။

အမျိုးသားတန်းတူရေး၊ ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်နှင့် ဒီမိုကရေစီအခွင့်အရေးများကို ဦးတည်ရည်မှန်း၍ ပင်လုံစာချုပ်ကြီးတွင် ညီညာဖျဖျ လက်မှတ်ရေးထိုးခဲ့ကြပြီး လွတ်လပ်ရေးကို လက်ဝယ်ပိုင်ပိုင် ပြန်လည်ရရှိစေကာမူ၊ သက်ဆိုင်ရာ အာဏာပိုင်များက အကောင်အထည်ဖော်ဆောင်ရွက်ရန် ပျက်ကွက်ခဲ့ကြသည့်အတွက် ရာစုနှစ်ဝက်ကျော် ပြည်တွင်းစစ်မီး တောက်လောင်ခဲ့ပြီး လူ့အသက်အိုးအိမ်စည်းစိမ်ပေါင်းများစွာ ဆုံးရှုံးခဲ့ရလေသည်။ ထို့အပြင် ၁၉၆၂ ခုနှစ်မှစ၍ အဆက်ဆက်သော အာဏာရှင်စနစ်ဆိုးတို့ကြောင့် ဒီမိုကရေစီနှင့် လူ့အခွင့်အရေးတို့ ဆိတ်သုဉ်းခဲ့ရသည်သာမက ၁၉၄၇ ခုနှစ်တွင် တန်းတူရေးအခြေခံမှုဖြင့် ပြည်ထောင်စုအဖွဲ့ဝင်များ ဖြစ်လာခဲ့ကြသော တိုင်းရင်းသားလူမျိုးများ၏ ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်ပါ ဆုံးရှုံးခဲ့ရလေသည်။ ထို့ကြောင့် ပြည်ထောင်စုသားအားလုံး ရင်နင့်ဖွယ်ကြုံတွေ့ခဲ့ရသော အတွေ့အကြုံနှင့် ခါးသီးစွာခံစားခဲ့ရသော အဖြစ်အပျက်များကို ကျွန်ုပ်တို့သည် မေ့လျော့ခြင်းငှာ မပြုအပ်ပေ။

ထိုသို့သော အတိတ်ကာလ၏အမှားများကို ရှောင်လွှဲနိုင်ရန်နှင့် ကျွန်ုပ်တို့အားလုံး၏ အနာဂတ်ရည်မှန်းချက်များကို ဖော်ဆောင်နိုင်ရန်အလို့ငှာ – တိုင်းရင်းသားလူမျိုးများ အားလုံး နိုင်ငံရေးနှင့်လူမျိုးရေးအရ တန်းတူရေး၊ ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်ရ ပြည်နယ်များ

ဖြင့် ပြည်ထောင်စုဖွဲ့စည်းရေး၊ ဒီမိုကရေစီ၊ လူ့အခွင့်အရေးနှင့် ကျား–မ တန်းတူရေး အပေါ် အာမခံရေး၊ တိုင်းရင်းသားလူမျိုးစုလူနည်းစုများ၏ အခွင့်အရေးအတွက် အာမခံရေး၊ နိုင်ငံရေးနှင့် ဘာသာရေး ရောထွေးမှုကင်းစင်ရေးနှင့် စစ်အာဏာရှင်စနစ် ထပ်မံမပေါ်လာစေရေးအတွက် အရပ်သားအုပ်ချုပ်ရေးအောက်တွင် စစ်တပ်ကို ထားရှိရေး အစရှိသော အခြေခံမူကြီးများကို ကျောရိုးမဏ္ဍိုင်ပြု၍ ရေးဆွဲပြဋ္ဌာန်းသည့် ဖက်ဒရယ်ပြည်ထောင်စု ဖွဲ့စည်းပုံအခြေခံဥပဒေကြီး ဖြစ်ပါသည်။

ထို့ကြောင့် ဤဖက်ဒရယ်ပြည်ထောင်စု ဖွဲ့စည်းပုံအခြေခံဥပဒေသည် လွတ်လပ်မှု၏ အသီးအပွင့်များကို မိမိတို့အတွက်သာမက နောင်လာနောက်သား သားစဉ်မြေးဆက်များအထိ ရရှိခံစားစေပြီး၊ အမှောင်ကိုခွင်း၍ အလင်းကိုဆောင်ဘိသကဲ့သို့ အတိတ်၏အနိဋ္ဌာရုံများကို လုံးဝပျက်ပျယ်ကွယ်ပျောက်စေလျက် ကမ္ဘာ့အလယ်တွင် ဝင့်ထည်စွာ ရပ်တည်နိုင်သည့် လွတ်လပ်၍ အချုပ်အခြာအာဏာပိုင်သော ဖက်ဒရယ်ပြည်ထောင်စု မြန်မာနိုင်ငံတော်ကြီး၏ အမြင့်ဆုံးဥပဒေအဖြစ် လိုက်နာကျင့်သုံးနိုင်ရန်အတွက် အခိုင်အမာပြဋ္ဌာန်းလိုက်သည်။

# အခန်း (၁)
# ဖက်ဒရယ်ပြည်ထောင်စု၏ ဝိသေသလက္ခဏာများ
# Form of Federal Union

## ပုဒ်မ (၁) ဖက်ဒရယ်ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ

ဖက်ဒရယ်ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံသည် လွတ်လပ်၍ အချုပ်အခြာအာဏာပိုင် ဒီမိုကရေစီဖက်ဒရယ်ပြည်ထောင်စုသမ္မတနိုင်ငံ ဖြစ်သည်။ ယင်းကို "ဖက်ဒရယ်ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ" ဟု ခေါ်တွင်စေရမည်။

## ပုဒ်မ (၂) ပြည်ထောင်စုဖွဲ့စည်းခြင်း

ကိုယ်ပိုင်ပြဌာန်းခွင့် အပြည့်အဝရှိ၍ တန်းတူသော နိုင်ငံရေးအာဏာများကို ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ အပ်နှင်းခြင်းခံရသည့် ပြည်နယ်များဖြင့် ဖက်ဒရယ်ပြည်ထောင်စုကို ဖွဲ့စည်းစေရမည်။

## ပုဒ်မ (၃) အချုပ်အခြာအာဏာ

ဖက်ဒရယ်ပြည်ထောင်စု၏ အချုပ်အခြာအာဏာတို့သည် နိုင်ငံသားတို့၏ လက်ဝယ်၌ တည်ရှိသည်။

## ပုဒ်မ (၄) အချုပ်အခြာအာဏာခံယူကျင့်သုံးခြင်း

(က) အချုပ်အခြာအာဏာကို ပုံမှန်ကျင်းပမြဲဖြစ်သော လွတ်လပ်၍ တရားမျှတသည့် အထွေထွေရွေးကောက်ပွဲများမှတဆင့် လျှို့ဝှက်မဲပေးစနစ်ဖြင့် နိုင်ငံသားတို့က ရွေးချယ်ခန့်အပ်သည့် လွှတ်တော်ကိုယ်စားလှယ်များက ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဌာန်းချက်များနှင့်အညီ ခံယူကျင့်သုံးစေရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စု၏ အချုပ်အခြာအာဏာကို ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ တည်ထောင်ဖွဲ့စည်းထားသည့် ပြည်ထောင်စုလွှတ်တော်၊ ပြည်ထောင်စုအစိုးရ၊ ပြည်ထောင်စု တရားလွှတ်တော်ချုပ်နှင့် တရားရုံးများက ကျင့်သုံးစေရမည်။

## ပုဒ်မ (၅) အာဏာခွဲခြားမှု

အချုပ်အခြာအာဏာ၏ ပင်မ မဏ္ဍိုင်သုံးရပ်ဖြစ်သော ဥပဒေပြုမှုအာဏာ၊ အုပ်ချုပ်မှုအာဏာနှင့် တရားစီရင်ရေးအာဏာတို့ကို ခွဲခြားကျင့်သုံးစေရမည့်အပြင် အာဏာတရပ်နှင့်တရပ်အကြား အပြန်အလှန်ထိန်းညှိမှု ရှိစေရမည်။

## ပုဒ်မ (၆) အာဏာခွဲဝေကျင့်သုံးခြင်း

ဖက်ဒရယ်ပြည်ထောင်စုနှင့် ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များအကြား တွင် ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ အာဏာများကို ခွဲဝေကျင့်သုံးစေရမည်။

## ပုဒ်မ (၇) ဘာသာရေးကို အခြေမခံသောနိုင်ငံ

(က) ဖက်ဒရယ်ပြည်ထောင်စုသည် နိုင်ငံရေးနှင့် ဘာသာရေး ရောစပ်ခြင်းမရှိစေဘဲ၊ ဘာသာရေးကို အခြေမခံသောနိုင်ငံ ဖြစ်စေရမည်။

(ခ) မည်သည့် ဘာသာအယူဝါဒကိုမျှ နိုင်ငံတော်ဘာသာအဖြစ် ပြဋ္ဌာန်းခြင်း မရှိစေရ။

## ပုဒ်မ (၈) နယ်နိမိတ်

ဖက်ဒရယ်ပြည်ထောင်စု၏ မြေထု၊ ရေထု၊ လေထုပါဝင်သော နယ်နမိတ်သည် ဤဖွဲ့စည်းပုံအခြေခံဥပဒေအတည်ပြုပြဋ္ဌာန်းသည့်နေ့တွင် တည်ရှိသည့်အတိုင်းဖြစ်သည်။ ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များအားလုံး၏ သဘောတူညီချက် မပါရှိဘဲ ဖက်ဒရယ်ပြည်ထောင်စု၏ နယ်နိမိတ်ကို ပြင်ဆင်ခြင်း မပြုစေရ။

## ပုဒ်မ (၉) နိုင်ငံရေးစနစ်

(က) ဖက်ဒရယ်ပြည်ထောင်စု၏ နိုင်ငံရေးစနစ်သည် ပါတီစုံဒီမိုကရေစီစနစ် ဖြစ်သည်။

(ခ) နိုင်ငံရေးပါတီများကို ဒီမိုကရေစီအခြေခံမူများ၊ ကျင့်စဉ်များနှင့်အညီ လွတ်လပ်စွာဖွဲ့စည်းထူထောင်နိုင်သည်။

(ဂ) နိုင်ငံရေးပါတီများဆိုင်ရာဥပဒေကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၀) အမြင့်ဆုံးဥပဒေ

ဖက်ဒရယ်ပြည်ထောင်စုတွင် ဤဖွဲ့စည်းပုံအခြေခံဥပဒေသည် အမြင့်ဆုံးဥပဒေ ဖြစ်သည်။

# အခန်း (၂)
# အခွင့်အရေးများ၊ ရပိုင်ခွင့်များနှင့် တာဝန်များ
# Bill of Rights, Guarantees and Duties

## အခြေခံအခွင့်အရေးများ (Fundamental Rights)

### ပုဒ်မ (၁၁) ကိုယ်ပိုင်အခွင့်အရေးများ

ဖက်ဒရယ်ပြည်ထောင်စုအတွင်း နေထိုင်သူတိုင်းသည် —

(က) အသက်ရှင် ရပ်တည်ပိုင်ခွင့် ရှိစေရမည်။

(ခ) လူမျိုး၊ ဇာတိ၊ ကိုးကွယ်ရာဘာသာ၊ အသားအရောင်၊ အဆင့်အတန်း၊ အသက်အရွယ်၊ လိင်နှင့် လိင်စိတ်ကွဲပြားမှု များကြောင့် ခွဲခြားမှုမရှိစေရဘဲ တရားဥပဒေရှေ့မှောက်တွင် တန်းတူအခွင့်အရေး ရှိစေရမည်။

(ဂ) လွတ်လပ်စွာ တွေးခေါ်ယုံကြည်ခွင့် ရှိစေရမည်။

(ဃ) လူပုဂ္ဂိုလ်တဦးအဖြစ် တရားဝင် အသိအမှတ်ပြု ခံပိုင်ခွင့်ရှိပြီး လူ့ဂုဏ်သိက္ခာအား လေးစားစေမှုနှင့် ကာကွယ်ပေးမှု ရယူပိုင်ခွင့် ရှိစေရမည်။

### ပုဒ်မ (၁၂) အခြေခံလွတ်လပ်ခွင့်

ဖက်ဒရယ်ပြည်ထောင်စုအတွင်းနေထိုင်သူ မည်သူမဆို —

(က) ကျွန်ပြုခြင်းမခံစေရ။

(ခ) အတင်းအဓမ္မစေခိုင်းခံရခြင်း မရှိစေရ။

(ဂ) နှိပ်စက်ညှင်းပမ်းခြင်း၊ လိင်ပိုင်းဆိုင်ရာ စော်ကားမှုပြုခြင်း၊ လူမဆန်သော ရက်စက်စွာပြုမှု ဆက်ဆံခြင်း မခံစေရ။

### ပုဒ်မ (၁၃) ရုပ်သိမ်းပိုင်ခွင့်မရှိသော အခွင့်အရေးများ

အထက် ပုဒ်မ (၁၁) ပါ ကိုယ်ပိုင်အခွင့်အရေးများနှင့် ပုဒ်မ (၁၂) ပါ အခြေခံလွတ်လပ်ခွင့်များကို မည်သည့်အခြေအနေ အောက်တွင်မျှ ရုပ်သိမ်းပိုင်ခွင့် မရှိစေရ။

### ပုဒ်မ (၁၄) အခြေခံရပိုင်ခွင့်

ဖက်ဒရယ်ပြည်ထောင်စုအတွင်းနေထိုင်သူတိုင်းသည် —

(က) လွတ်လပ်စွာ ထုတ်ဖော်ပြောဆိုခွင့်၊ ပုံနှိပ်ထုတ်ဝေခွင့်၊ သတင်းရယူခွင့်၊ သတင်းဖြန့်ချိခွင့် ရှိစေရမည်။

(ခ) လွတ်လပ်စွာ ဘာသာတရား ကိုးကွယ်ခွင့်၊ ဘာသာရေး ထုံးတမ်းစဉ်လာများ ကို ကျင့်သုံးခွင့်ရှိစေရမည်။

(ဂ) လွတ်လပ်စွာ စုဝေးခွင့်နှင့် ငြိမ်းချမ်းစွာဆန္ဒပြခွင့် ရှိစေရမည်။

(ဃ) နိုင်ငံရေးခိုလှုံခွင့် တောင်းခံပိုင်ခွင့် ရှိစေရမည်။

(င) ဤပုဒ်မပါ လွတ်လပ်ခွင့်များကို ကျင့်သုံးရာတွင် ဒီမိုကရေစီအခြေခံမူများ၊ ကျင့်စဉ်များကို ဆန့်ကျင်ခြင်း၊ ပြည်သူ့ကျန်းမာရေးနှင့် ပြည်သူတို့၏ ကိုယ်ကျင့်တရားကို ထိခိုက်ပျက်ပြားစေနိုင်ခြင်းများ ဖြစ်ပေါ်လာပါက ကန့်သတ်ဟန့်တားသည့် ဥပဒေကို ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းနိုင်စေရမည်။

## ပုဒ်မ (၁၅) ကိုယ်ပိုင်လွတ်လပ်ခွင့် အခွင့်အရေး

ဖက်ဒရယ်ပြည်ထောင်စုအတွင်း နေထိုင်သူ မည်သူမဆို —

(က) မိမိ၏ နေအိမ်၊ မိသားစု စာပေးစာယူအပါအဝင် ကိုယ်ပိုင်လွတ်လပ်မှုတို့ကို ဥပဒေနှင့်အညီမဟုတ်သော နှောင့်ယှက်ခြင်း၊ မိမိ၏သိက္ခာနှင့် ဂုဏ်သတင်းကို ဥပဒေနှင့်အညီ မဟုတ်သောနည်းဖြင့် ထိခိုက်ခြင်း မခံထိုက်စေရ။

(ခ) ဥပဒေနှင့်မညီသောနည်းဖြင့် လူပုဂ္ဂိုလ်ကိုရှာဖွေခံရခြင်း၊ နေအိမ်ဥပစာအတွင်း ဝင်ရောက်ရှာဖွေ ခံရခြင်းတို့နှင့် ၎င်းတို့ ပိုင်ဆိုင်သည့်ပစ္စည်း သိမ်းယူခံရခြင်းမှ လုံခြုံမှု ခံစားပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၆) ကျား–မ တန်းတူအခွင့်အရေး

ဖက်ဒရယ်ပြည်ထောင်စုအတွင်း နေထိုင်သူတိုင်းသည် နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး၊ ယဉ်ကျေးမှုနှင့် မိသားစုအစရှိသည့်နယ်ပယ်အသီးသီး၌ ကျား–မ တန်းတူအခွင့်အရေး ရှိစေရမည်။

## ပုဒ်မ (၁၇) နိုင်ငံသားဖြစ်ခွင့် အခွင့်အရေး

ဖက်ဒရယ်ပြည်ထောင်စုအတွင်း နေထိုင်သူတိုင်းသည် ဖက်ဒရယ်ပြည်ထောင်စု ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံသားအဖြစ် လျှောက်ထားပိုင်ခွင့် ရှိသည်။

## ပုဒ်မ (၁၈) ဖမ်းဆီးချုပ်နှောင်ခံရသူ၏အခွင့်အရေး

(က) ဖက်ဒရယ်ပြည်ထောင်စုအတွင်း နေထိုင်သူမည်သူမျှ ပြစ်မှုကျူးလွန်သည်ဟု ထင်မြင်ယူဆနိုင်ဘွယ်ရာ ခိုင်လုံသောအကြောင်းမရှိဘဲ သံသယဖြင့် ချုပ်နှောင်ခံရခြင်း၊ ထောင်သွင်းအကျဉ်းချ ခံရခြင်း မရှိစေရ။

(ခ) ဖမ်းဆီးချုပ်နှောင်ခံရသူတိုင်းအပေါ် ဆက်ဆံရာတွင် လူ့ဂုဏ်သိက္ခာနှင့်အညီ ဆက်ဆံမှု ခံထိုက်စေရမည်။

(ဂ) ဖမ်းဆီးချုပ်နှောင်ခံရသူ မည်သူ့ကိုမဆို ဝရမ်းအရမဟုတ်လျှင် (၂၄) နာရီ ထက်ကျော်လွန်၍ ချုပ်နှောင်ထားခြင်း မရှိစေရ။ (၂၄) နာရီထက်ကျော်လွန်၍ ချုပ်နှောင်ရန်လိုလောက်သော အကြောင်းရှိလျှင် အာဏာရှိသည့် သက်ဆိုင်ရာတရားရုံးသို့ အစီရင်ခံတင်ပြပြီး တရားသူကြီးတဦးဦး၏ ချုပ်မိန့်ဖြင့်သာ တည်ဆဲတရားဥပဒေများနှင့်အညီ ဆက်လက်ချုပ်နှောင်ပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၉) ပြစ်မှုဆိုင်ရာစွဲဆိုခြင်း

(က) မည်သူမဆို ပြစ်မှုတခုခုနှင့် တရားစွဲဆိုခြင်းခံရပါက —

(၁) အဆိုပါပြစ်မှုနှင့် စွဲဆိုထားကြောင်းကို နှောင့်နှေးခြင်းမရှိ ကြားသိစေရမည်။

(၂) အမြန်ဆုံးအချိန်ကာလအတွင်း စစ်ဆေးကြားနာရမည်။

(၃) တရားစွဲဆိုခြင်းခံရသူ၏ ဆန္ဒနှင့်ဆန့်ကျင်၍ သက်သေထွက်ဆိုရန် အတင်းအကြပ်ပြုခြင်း မခံစေရ။

(၄) ဥပဒေနှင့်အညီ ခုခံချေပခွင့်အပြည့်အဝ ရှိစေရမည်။

(၅) တရားစွဲဆိုခြင်း ခံရသူ၏ကိုယ်စား ဥပဒေအကျိုးဆောင် ငှားရမ်းထုချေပိုင်ခွင့်ရှိစေရမည်။

(၆) တရားစွဲဆိုခြင်း ခံရသူ နားလည်နိုင်သော ဘာသာစကားဖြင့် စစ်ဆေးကြားနာမှုကို ခံယူပိုင်ခွင့် ရှိစေရမည်။ ယင်းသို့ ဆောင်ရွက်ရန် အခက်အခဲရှိပါက စကားပြန်၏ အကူအညီကို ရယူပိုင်ခွင့် ရှိစေရမည်။

(ခ) ကြားနာသော တရားခွင်အားလုံးသည် အများပြည်သူ တက်ရောက်နိုင်သော တရားစီရင်ရေး ဖြစ်ရမည်။

## ပုဒ်မ (၂၀) တရားစီရင်ခြင်းနှင့် ပြစ်ဒဏ်

(က) ပြစ်မှုဖြစ်ပွားစဉ် အချိန်ကာလ၌ အတည်ဖြစ်နေသော တရားဥပဒေအရသာ စီရင်ရမည်။

(ခ) လူ့ဂုဏ်သိက္ခာကို ညှိုးနွမ်းသေးသိမ်စေသော ပြစ်ဒဏ်များ မချမှတ်ရ။

(ဂ) တရားသေလွှတ်ခြင်းခံရပြီးသူ မည်သူတဦးတယောက်ကိုမျှ အဆိုပါပြစ်မှုအတွက် ထပ်မံစစ်ဆေးစီရင်ခြင်း မပြုရ။

(ဃ) မည်သူမဆို ပြစ်မှုတခုအတွက် တကြိမ်ထက်ပို၍ ပြစ်ဒဏ်ချမှတ်ခြင်း မခံစေရ။

(င) မည်သည့် ဥပဒေမျှ နောက်ကြောင်းပြန်အာဏာ သက်ရောက်ခြင်း မရှိစေရ။

## နိုင်ငံသားနှင့် နိုင်ငံရေးဆိုင်ရာအခွင့်အရေးများ
## (Civil and Political Rights)

### ပုဒ်မ (၂၁) လွတ်လပ်စွာသွားလာခွင့်

ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတိုင်းသည် ပြည်ထောင်စုအတွင်း လွတ်လပ်စွာ သွားလာခွင့် ရှိစေရမည်။

### ပုဒ်မ (၂၂) ပြည်ပသို့ထွက်ခွာခွင့်၊ ပြန်လည်ဝင်ရောက်ခွင့်

ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတိုင်းသည် ပြည်ထောင်စုမှ ပြည်ပသို့ထွက်ခွာခွင့်၊ ပြည်ပမှ ပြည်ထောင်စုသို့ ပြန်လည်ဝင်ရောက်ခွင့် ရှိစေရမည်။

### ပုဒ်မ (၂၃) လက်ထပ်ထိမ်းမြားခြင်းဆိုင်ရာအခွင့်အရေး

(က) အရွယ်ရောက်ပြီးသူတိုင်းသည် လူမျိုး၊ ဘာသာ၊ အဆင့်အတန်းမခွဲခြားဘဲ လွတ်လပ်သော သဘောဆန္ဒနှင့်အညီ လက်ထပ်ပိုင်ခွင့် ရှိစေရမည်။

(ခ) လက်ထပ်ထိမ်းမြားခြင်းသည် မိမိ၏ဘာသာတရားနှင့် လူမျိုးသဏ္ဌာန် ရွေးချယ်မှုအခွင့်အရေးကို အလိုအလျောက် ပြောင်းလဲခြင်း မဖြစ်စေရ။ မိမိ၏ လွတ်လပ်သော ဆန္ဒသဘောထားအရသာလျှင် ဖြစ်စေရမည်။

### ပုဒ်မ (၂၄) နိုင်ငံရေးအခွင့်အရေး

အရွယ်ရောက်သူနိုင်ငံသားတိုင်းသည် —

(က) တိုက်ရိုက်သော်လည်းကောင်း လွတ်လပ်စွာ ရွေးချယ်တင်မြှောက်ထားသော ကိုယ်စားလှယ်များမှတဆင့်သော်လည်းကောင်း၊ နိုင်ငံရေးဆိုင်ရာကိစ္စများတွင် ပါဝင်ဆောင်ရွက်ခွင့်ရှိစေရမည်။

(ခ) လွတ်လပ်သော ဆန္ဒဖော်ပြမှုကို အာမခံသည့် လျှို့ဝှက်၊ တိုက်ရိုက်၊ လွတ်လပ်၍ တရားမျှတမှုရှိသော ပုံမှန်အထွေထွေ ရွေးကောက်ပွဲများတွင်သော်လည်းကောင်း၊ အခါအားလျော်စွာ ကျင်းပသော ရွေးကောက်ပွဲများတွင်သော်လည်းကောင်း၊ ဆန္ဒမဲပေးပိုင်ခွင့်နှင့် ရွေးချယ်တင်မြှောက်ခံပိုင်ခွင့် ရှိစေမည်။

### ပုဒ်မ (၂၅) အဖွဲ့အစည်းများတည်ထောင်ခွင့်

(က) ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားတိုင်းသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသော ဥပဒေနှင့်အညီ လွတ်လပ်စွာအသင်းအဖွဲ့များ ဖွဲ့စည်းတည်ထောင်ခွင့်၊ သမဂ္ဂများထူထောင်ခွင့်နှင့် ပါဝင်ခွင့်ရှိစေရမည်။

(ခ) မည်သူမျှ အသင်းအဖွဲ့တခုခုသို့ဝင်ရောက်ရန် အတင်းအကျပ်ပြုမှုခြင်းမခံစေရ။

## စီးပွားရေး၊ လူမှုရေး၊ ယဉ်ကျေးမှုဆိုင်ရာအခွင့်အရေးများနှင့် တာဝန်များ
## (Economic, Social and Cultural Rights and Duties)

### ပုဒ်မ (၂၆) ပစ္စည်းပိုင်ဆိုင်ခွင့်

(က) နိုင်ငံသားတိုင်းသည် တရားသဖြင့် ရှာဖွေရရှိထားသော ပစ္စည်းဥစ္စာများ ပိုင်ဆိုင်ခွင့်၊ လွှဲပြောင်းခွင့်၊ ထုခွဲရောင်းချပိုင်ခွင့်၊ အမွေဆက်ခံပိုင်ခွင့် ရှိရမည်။

(ခ) နိုင်ငံသားတိုင်း၏ ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်ကို အများပြည်သူအကျိုးအတွက်သာ လျှင် ဥပဒေနှင့်အညီ ရုပ်သိမ်းမှု ပြုလုပ်နိုင်စေရမည်။ ရုပ်သိမ်းခံရသူ၏အကျိုးနှင့် အများပြည်သူတို့၏အကျိုးကို တရားမျှတစွာချိန်ဆ၍ ထိုက်တန်သောလျော် ကြေးပေးပြီးမှသာ သိမ်းယူခွင့် ရှိစေရမည်။

### ပုဒ်မ (၂၇) အလုပ်လုပ်ပိုင်ခွင့်

နိုင်ငံသားတိုင်းသည် ဇာတိ၊ ကိုးကွယ်ရာဘာသာ၊ အဆင့်အတန်း၊ လိင်၊ အသား အရောင်၊ လူမျိုး၊ အသက်အရွယ် ခွဲခြားခြင်း မရှိစေရဘဲ အလုပ်ရွေးချယ်ပိုင်ခွင့်နှင့် အလုပ်လုပ်ပိုင်ခွင့် အခွင့်အရေး ရှိစေရမည်။

### ပုဒ်မ (၂၈) စီးပွားရှာဖွေခွင့်

(က) နိုင်ငံသားတိုင်းသည် မိမိ၏ အသက်မွေးဝမ်းကြောင်းအတွက် လွတ်လပ်စွာ စီးပွားရှာဖွေခွင့်နှင့် စီးပွားရေးဆိုင်ရာ အဖွဲ့အစည်းများကို လွတ်လပ်စွာတည် ထောင်ပိုင်ခွင့်ရှိသည်။

(ခ) အထက်အပိုဒ် (က) ပါ အခွင့်အရေးကို ကျင့်သုံးရာတွင် နိုင်ငံတော်က ချမှတ် ထားသော စီးပွားရေးဆိုင်ရာမူဝါဒများ၊ စီမံကိန်းများ၊ နိုင်ငံတော်လုံခြုံရေး၊ ပြည်သူလူထု၏ အကျိုးစီးပွားနှင့် ကျန်းမာရေးတို့ကို ထိခိုက်မှု မရှိစေရ။

### ပုဒ်မ (၂၉) တီထွင်ဖန်တီးပိုင်ခွင့်နှင့် နည်းပညာမူပိုင်ခွင့်

နိုင်ငံသားတိုင်းသည် လွတ်လပ်စွာ တီထွင်ဖန်တီးပိုင်ခွင့်နှင့် နည်းပညာမူပိုင်ခွင့်တို့ကို ဥပဒေနှင့်အညီ ခံစားပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၃၀) မိရိုးဖလာအမွေအနှစ် ပိုင်ဆိုင်ခွင့်

မိရိုးဖလာ သဘာဝအမွေအနှစ်များ၊ ယဉ်ကျေးမှုဆိုင်ရာ အမွေအနှစ်များနှင့် ဓလေ့ထုံးတမ်းအစဉ်အလာအရ သီးသန့်ပိုင်ဆိုင်လာခဲ့သော နည်းပညာဆိုင်ရာ အမွေအနှစ်များကို သက်ဆိုင်ရာ လူမှုအသိုင်းအဝိုင်းမှ အစဉ်အဆက် ထိမ်းသိမ်းပိုင်ခွင့်၊ အသုံးပြုပိုင်ခွင့်၊ စီမံခန့်ခွဲပိုင်ခွင့်နှင့် လက်ဆင့်ကမ်းပိုင်ဆိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၃၁) အခြေချနေထိုင်ခွင့်

နိုင်ငံသားတိုင်းသည် မိမိနေရင်းပြည်နယ်မှ အခြားပြည်နယ် တရပ်ရပ်သို့ အခြေချနေထိုင်ခြင်း၊ စီးပွားရှာဖွေခြင်းတို့သည် သက်ဆိုင်ရာပြည်နယ်၏ တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီသာလျှင် ဖြစ်စေရမည်။

## ပုဒ်မ (၃၂) ပညာသင်ကြားပိုင်ခွင့်

ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားတိုင်းသည် —

(က) လွတ်လပ်စွာ ပညာသင်ကြားပိုင်ခွင့်ရှိသည်။

(ခ) မိမိနှစ်သက်ဝါသနာပါရာ အတတ်ပညာ၊ အသက်မွေးဝမ်းကြောင်းပညာ၊ အဆင့်မြင့်ပညာများကို လွတ်လပ်စွာရွေးချယ်ပိုင်ခွင့် ရှိစေရမည်။

(ဂ) အခြေခံပညာရေးကို မသင်မနေရအဖြစ် အခမဲ့သင်ကြားခွင့် ရရှိစေရမည်။

## ပုဒ်မ (၃၃) ပညာသင်ကျောင်းများတည်ထောင်ခွင့်

ပုဂ္ဂလိကကျောင်းများ၊ တက္ကသိုလ်၊ ကောလိပ်များ၊ သိပ္ပံနှင့်အသက်မွေးဝမ်းကြောင်းဆိုင်ရာ အဆင့်မြင့်ပညာသင်ကျောင်းများကို သတ်မှတ်ပြဋ္ဌာန်းထားသော ဥပဒေနှင့်အညီ တည်ထောင်ပိုင်ခွင့်ကို အာမခံရမည်။

## ပုဒ်မ (၃၄) ကျန်းမာရေးဆိုင်ရာအခွင့်အရေး

(က) ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတိုင်းသည် အခြေခံကျန်းမာရေးအဆင့်တွင် ကာကွယ်စောင့်ရှောက်မှုနှင့် ကုသမှုကို အခမဲ့ ရယူခံစားပိုင်ခွင့် ရှိစေရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားများ၏ ကျန်းမာရေးဆိုင်ရာကာကွယ်စောင့်ရှောက်မှု၊ အသက်နှင့် ထိခိုက်ဒဏ်ရာရမှုအတွက် အာမခံထားရှိမှုနှင့် လူမှုဖူလုံရေးအတွက် စီမံထားရှိမှုတို့ကို ဖက်ဒရယ်အစိုးရက တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားတိုင်းသည် မိမိ၏ မျိုးပွားခြင်းဆိုင်ရာကိစ္စရပ်များနှင့် ပတ်သက်၍ ကျန်းမာရေးဆိုင်ရာ စောင့်ရှောက်ခံပိုင်ခွင့် ရှိစေရမည်။

(ဃ) ပုဒ်မ (၃၄) (ဂ) ပါ မျိုးပွားခြင်းဆိုင်ရာ ကိစ္စရပ်များနှင့် ပတ်သက်သည့်ဥပဒေကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ပြဋ္ဌာန်းပေးရမည်။

### ပုဒ်မ (၃၅) ယဉ်ကျေးမှုအခွင့်အရေးများ

ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားတိုင်းသည် မိမိတို့၏တိုင်းရင်းသားယဉ်ကျေးမှု၊ ဓလေ့ထုံးစံ၊ အစဉ်အလာများကို တိုးတက်ပြန့်ပွားအောင် ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ လွတ်လပ်စွာဆောင်ရွက်ပိုင်ခွင့် ရှိစေရမည်။

### ပုဒ်မ (၃၆) တိုင်းရင်းသားဘာသာစကား

ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားတိုင်းသည် မိမိတို့လူမျိုး၏ ဘာသာစကားနှင့် စာပေတို့ကို လွတ်လပ်စွာပြောဆိုပိုင်ခွင့်၊ သင်ကြားပိုင်ခွင့် ရှိစေရမည်။ တိုးတက်ပြန့်ပွားအောင် ဆောင်ရွက်ပိုင်ခွင့် ရှိစေရမည်။

## အထူးစီမံဆောင်ရွက်မှုဆိုင်ရာအခွင့်အရေးများ
## (Affirmative Action Rights)

### ပုဒ်မ (၃၇) ကျား–မတန်းတူညီမျှမှု အခွင့်အရေးအတွက်စီမံမှု

ကျား–မ တန်းတူညီမျှမှု အခွင့်အရေးကို ဖော်ဆောင်နိုင်ရေးအတွက် ဖက်ဒရယ်ပြည်ထောင်စု၏ အဆင့်ဆင့်သော ဥပဒေပြုရေးကဏ္ဍတွင် အနည်းဆုံး အမျိုးသမီး (၃၀) ရာခိုင်နှုန်း ပါဝင်စေရန် စီမံဆောင်ရွက်ရမည်။

### ပုဒ်မ (၃၈) ကလေးများအခွင့်အရေး

(က) ကလေးငယ်တိုင်းသည် အရွယ်မရောက်သေးသူအဖြစ် ကာကွယ်စောင့်ရှောက်မှုကို ရရှိခံစားပိုင်ခွင့်ရှိသည်။ ကလေးငယ်တိုင်းသည် အမျိုးသားထုတရပ်လုံး၏ ဖေးမကူညီမှုကို ခံစားပိုင်ခွင့် ရှိစေရမည်။

(ခ) ကလေးများအား မိဘ (သို့မဟုတ်) အုပ်ထိန်းသူတို့၏ ဆန္ဒမပါဘဲ ၎င်းတို့၏ မိသားစုထံမှ ကွဲကွာအောင်မပြုလုပ်ရ။ ကလေးတို့ကို ပြုစုစောင့်ရှောက်ခြင်းနှင့် သွန်သင်ပြုပြင်ခြင်းတို့သည် မိဘတို့၏ သဘာဝအခွင့်အရေးဖြစ်သည်။ အကယ်၍ မိဘ (သို့မဟုတ်) အုပ်ထိန်းသူတို့က ဝတ္တရားပျက်ကွက်လျှင်သော်

လည်းကောင်း၊ တနည်းနည်းကြောင့် ကလေးများခိုကိုးရာမဲ့ဘဝသို့ ရောက်ရှိမည့် အခြေအနေမျိုးတွင်သော်လည်းကောင်း၊ ကလေးများအား မိသားစုနှင့် ကွဲကွာစေခြင်းကို ဥပဒေအတိုင်း ဆောင်ရွက်ရမည်။

(ဂ) ကလေးများကို စီးပွားရေးနှင့် လူမှုရေးအရ ခေါင်းပုံဖြတ်ခြင်းမှ ကာကွယ်စောင့်ရှောက်မှု ပြုရမည်။ ၎င်းတို့၏ ကိုယ်ကျင့်တရား၊ ကျန်းမာရေး၊ အသက်အန္တရာယ်၊ ကိုယ်ခန္ဓာကြီးထွားဖွံ့ဖြိုးမှု၊ တခုခုကို ထိခိုက်စေသော အလုပ်လုပ်ကိုင်စေခြင်းများမှ ကာကွယ်စောင့်ရှောက်ရမည်။

(ဃ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ကလေးများအခွင့်အရေးဆိုင်ရာ ဥပဒေကို ပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၃၉) အလုပ်သမားအခွင့်အရေး

(က) အလုပ်လုပ်သူတိုင်း လူ့ဂုဏ်သိက္ခာနှင့်အညီ ရှင်သန်ရပ်တည်နိုင်ရေးအတွက်—

(၁) သင့်တင့်လျောက်ပတ်သော လုပ်ငန်းခွင်အခြေအနေများရရှိခွင့်

(၂) လူမှုဖူလုံရေးခံစားခွင့်

(၃) မျှတသောအလုပ်ချိန်သတ်မှတ်ချက်နှင့်အညီ အလုပ်လုပ်ခွင့်

(၄) အားလပ်ရက်နှင့် ခွင့်ရက်များခံစားခွင့်

(၅) အလုပ်သမားသမဂ္ဂများ လွတ်လပ်စွာတည်ထောင်ဖွဲ့စည်းခွင့်နှင့် စည်းရုံးခွင့်များ ရရှိစေရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က အလုပ်သမားအခွင့်အရေးဆိုင်ရာ ဥပဒေကို ပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၄၀) လယ်သမားအခွင့်အရေး

လယ်သမားတိုင်းသည် —

(၁) သီးနှံများကို လွတ်လပ်စွာစိုက်ပျိုးခွင့်၊ ရောင်းချခွင့်၊ ထုတ်လုပ်ခွင့်၊

(၂) အခွန်ဟူသမျှ ငွေကြေးဖြင့် ပေးဆောင်ခွင့်၊

(၃) လယ်သမားသမဂ္ဂများ လွတ်လပ်စွာဖွဲ့စည်းခွင့် ရှိစေရမည်။

## ပုဒ်မ (၄၁) တန်းတူအခွင့်အရေးဖော်ဆောင်ခြင်း

ဖွံ့ဖြိုးမှုနောက်ကျလျက်ရှိသော တိုင်းရင်းသားလူမျိုးစုများအတွက်ဖြစ်စေ၊ စွမ်းဆောင်နိုင်မှုအခြေအနေနိမ့်ပါးလျက်ရှိသော နိုင်ငံသားအစုအဖွဲ့များအတွက်ဖြစ်စေ၊ ထုံးတမ်းစဉ်လာများအရ နှိမ့်ချဖယ်ကျဉ်ခြင်းခံထားရသော နိုင်ငံသားအစုအဖွဲ့များအတွက်ဖြစ်စေ၊ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်း၍ အထူးစီမံ

ဆောင်ရွက်ချက်များဖြင့် အကာအကွယ်ပေးခြင်း၊ စီမံဆောင်ရွက်ခြင်းတို့သည် နိုင်ငံသားတိုင်း တန်းတူအခွင့်အရေး ရရှိစေရမည်ဟူသော ပြဋ္ဌာန်းချက်ကြောင့် အဟန့်အတား မဖြစ်စေရ။

## အထွေထွေအခြေခံမူများ
## (General Principles)

### ပုဒ်မ (၄၂) သဘာဝပတ်ဝန်းကျင်ဆိုင်ရာအခွင့်အရေး

(က) ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားတိုင်းသည် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုကြောင့် ကြုံတွေ့ခံစားရမည့် အတိဒုက္ခများမှ ကင်းလွတ်စေရမည့်အပြင် သဘာဝတရားနှင့်ကိုက်ညီ၍ ကျန်းမာရေးနှင့်ညီညွတ်သည့် သဘာဝပတ်ဝန်းကျင်ကို ရရှိရန် အခွင့်အရေးရှိသည်။

(ခ) လူနည်းစုဌာနေတိုင်းရင်းသားတို့၏ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ခွင့်နှင့် ၎င်းတို့ အခြေချနေထိုင်ရာဒေသအတွင်း သဘာဝပတ်ဝန်းကျင် ထိခိုက်မှုကို ဖြစ်စေနိုင်သည့် သဘာဝသယံဇာတများ အလွန်အကျွံ ထုတ်ယူသုံးစွဲခြင်းအပေါ် ကန့်သတ်ထိန်းချုပ်ခွင့်ရှိခြင်းကို ဖက်ဒရယ်ပြည်ထောင်စုအစိုးရသည် အသိအမှတ်ပြုရမည်။

### ပုဒ်မ (၄၃) လူ့အခွင့်အရေးကော်မရှင်ထံတိုင်ကြားခွင့်

လူ့အခွင့်အရေးဖောက်ဖျက်ခံရသူ မည်သူမဆို ဖက်ဒရယ်ပြည်ထောင်စု၏ ကာကွယ်စောင့်ရှောက်မှုကို ရယူခွင့်ရှိစေရန်အတွက် လူ့အခွင့်အရေးကော်မရှင်ထံသို့ တိုင်ကြားခွင့် ရှိစေရမည်။

### ပုဒ်မ (၄၄) အခြေခံဥပဒေ၏အကာအကွယ်ရယူခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စုအတွင်း နေထိုင်သူတိုင်းသည် ဖက်ဒရယ်ပြည်ထောင်စုဖွဲ့စည်းပုံအခြေခံဥပဒေ၏ အကာအကွယ်ကိုရယူရန် လိုအပ်သောအခါ၌ ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ်သို့ လျှောက်ထားပိုင်ခွင့် ရှိစေရမည်။

(ခ) ဤအခွင့်အရေးကို မည်သည့်အခြေအနေတွင်မှ ရပ်ဆိုင်းထားခြင်း မရှိစေရ။

## ပုဒ်မ (၄၅) ဖက်ဒရယ်ပြည်ထောင်စု၏ အကာအကွယ်ရယူခြင်း

နိုင်ငံသားတိုင်းသည် ဖက်ဒရယ်ပြည်ထောင်စု အတွင်း၌ဖြစ်စေ၊ ဖက်ဒရယ်ပြည်ထောင်စုပြင်ပ၌ဖြစ်စေ ဖက်ဒရယ်ပြည်ထောင်စု၏ ကာကွယ်စောင့်ရှောက်မှုကို တောင်းဆိုပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၄၆) အပြည်ပြည်ဆိုင်ရာ စာချုပ်စာတမ်းများအား တိုက်ရိုက်ကိုးကား ကျင့်သုံးခွင့်

ဖက်ဒရယ်ပြည်ထောင်စုက အတည်ပြုသော အပြည်ပြည်ဆိုင်ရာ လူ့အခွင့်အရေး စာချုပ်စာတမ်းများကို တရားရုံးများက တိုက်ရိုက်ကိုးကားကျင့်သုံးပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၄၇) တာဝန်များ

ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတိုင်းသည် —

(က) ဖက်ဒရယ်ပြည်ထောင်စုကို ကာကွယ်ရန် တာဝန်ရှိသည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စု ဖွဲ့စည်းပုံအခြေခံဥပဒေကို လေးစားလိုက်နာရန်နှင့် ထိန်းသိမ်းကာကွယ်စောင့်ရှောက်ရန် တာဝန်ရှိသည်။

# အခန်း (၃)
# ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင်ပြည်နယ်များ
# Member States of the Federal Union

### ပုဒ်မ (၄၈) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင်ပြည်နယ်များ

(က) ဖက်ဒရယ်ပြည်ထောင်စု၏ အဖွဲ့ဝင်ပြည်နယ်များသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်အခွင့်အရေး အပြည့်အဝရှိစေရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုကို အမျိုးသားပြည်နယ်များ၊ အမျိုးသားများပြည်နယ်များနှင့် ဖက်ဒရယ်ပြည်ထောင်စုနယ်မြေများဖြင့် ဖွဲ့စည်းစေရမည်။

### ပုဒ်မ (၄၉) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များနှင့် ဖက်ဒရယ်ပြည်ထောင်စုနယ်မြေများ

(က) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင်ပြည်နယ်များ —
ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် အမျိုးသားပြည်နယ်နှင့် အမျိုးသားများပြည်နယ်များမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ကချင်အမျိုးသားပြည်နယ်
(၂) ကရင်အမျိုးသားပြည်နယ်
(၃) ကရင်နီအမျိုးသားပြည်နယ်
(၄) ချင်းအမျိုးသားပြည်နယ်
(၅) ဗမာအမျိုးသားပြည်နယ်
(၆) မွန်အမျိုးသားပြည်နယ်
(၇) တနင်္သာရီအမျိုးသားများပြည်နယ်
(၈) ရခိုင်အမျိုးသားပြည်နယ်
(၉) ရှမ်းအမျိုးသားပြည်နယ်
(၁၀) ဧရာဝတီအမျိုးသားများပြည်နယ်
(၁၁) – – – – – – – –
(၁၂) – – – – – – – –

(ခ) ဖက်ဒရယ်ပြည်ထောင်စုနယ်မြေများ —
ဖက်ဒရယ်ပြည်ထောင်စုနယ်မြေများမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ဖက်ဒရယ်ပြည်ထောင်စုမြို့တော်
(၂) – – – – – – – – –

## ပုဒ်မ (၅၀) ဖက်ဒရယ်ပြည်ထောင်စု အဖွဲ့ဝင်ပြည်နယ်များ၏ အခြေခံဥပဒေ

ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့် အညီ သက်ဆိုင်ရာ ပြည်နယ်ဖွဲ့စည်းပုံအခြေခံဥပဒေများကို လွတ်လပ်စွာရေးဆွဲ ပြဋ္ဌာန်းခွင့် ရှိစေရမည်။

## ပုဒ်မ (၅၁) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင်ပြည်နယ်များ၏အခွင့်အာဏာ

ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေ နှင့်အညီ ဥပဒေပြုအာဏာ၊ အုပ်ချုပ်ရေးအာဏာနှင့် တရားစီရင်ရေးအာဏာများ ကို ကျင့်သုံးပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၅၂) ကျန်ရှိနေသောအာဏာများကျင့်သုံးခွင့်

ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များသည် ဖက်ဒရယ်ပြည်ထောင်စုအစိုးရ သို့ အပ်နှင်းထားသည့် အာဏာများနှင့် ဤဖက်ဒရယ်ပြည်ထောင်စုဖွဲ့စည်းပုံ အခြေခံဥပဒေအရ ပိတ်ပင်တားမြစ်ထားသော အာဏာများမှအပ ကျန်ရှိသော အာဏာများကို ကျင့်သုံးပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၅၃) လူနည်းစုတိုင်းရင်းသားအခွင့်အရေး

(က) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များအတွင်းရှိ လူနည်းစုတိုင်းရင်း သားများ၏ အခွင့်အရေးများကို ကာကွယ်ပြဋ္ဌာန်းပေးရမည်။

(ခ) လူနည်းစုတိုင်းရင်းသားများ၏ အခွင့်အရေးများကို ကာကွယ်ပေးနိုင်ရန် ကိုယ် ပိုင်အုပ်ချုပ်ခွင့်ရဒေသများနှင့် အမျိုးသားနယ်မြေများကို လိုအပ်လျှင်လိုအပ် သလို ပြည်နယ်ဖွဲ့စည်းပုံအခြေခံဥပဒေများတွင် သတ်မှတ်ပြဋ္ဌာန်းပေးရမည်။

(ဂ) အမျိုးသားပြည်နယ်အဆင့် မရရှိသေးသော တိုင်းရင်းသားလူမျိုးစုများအနေ ဖြင့် ၎င်းတို့နေထိုင်ရာ ပြည်နယ်တခုအတွင်း၌ဖြစ်စေ၊ ပြည်နယ်များအတွင်း၌ ဖြစ်စေ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ (သို့တည်းမဟုတ်) အမျိုးသားနယ်မြေ အဖြစ် သတ်မှတ်ပေးရန် တောင်းဆိုပိုင်ခွင့် ရှိစေရမည်။

(ဃ) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသကို သတ်မှတ်ပေးရန်အတွက် သက်ဆိုင်ရာ ပြည် နယ်တွင်းနေထိုင်သူ ပြည်နယ်သားဦးရေ ငါးသောင်းက လက်မှတ်ရေးထိုး၍ တောင်းဆိုလာလျှင်ဖြစ်စေ၊ အမျိုးသားနယ်မြေများ သတ်မှတ်ပေးရန်အတွက် သက်ဆိုင်ရာနယ်မြေအတွင်းနေထိုင်သူ နိုင်ငံသားငါးထောင်က လက်မှတ်ရေး

ထိုး၍ တောင်းဆိုလာလျှင်ဖြစ်စေ၊ သက်ဆိုင်ရာပြည်နယ်လွှတ်တော်က အများစုဆန္ဒမဲဖြင့် အဆုံးဖြတ်ပြုရမည်။

## ပုဒ်မ (၅၄) ပြည်နယ်တပ်ဖွဲ့များ

(က) ဖက်ဒရယ်ပြည်ထောင်စု အဖွဲ့ဝင်ပြည်နယ်များသည် သက်ဆိုင်ရာ ပြည်နယ်လူဦးရေ၏ (၀.၂) ရာခိုင်နှုန်း အင်အားထက်မပိုသော ပြည်နယ်ရဲတပ်ဖွဲ့ကို ဖွဲ့စည်းခွင့် ရှိစေရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ပြဋ္ဌာန်းထားသောဥပဒေနှင့်အညီ ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင်ပြည်နယ်များသည် သက်ဆိုင်ရာ ပြည်နယ်လူဦးရေ၏ (၀.၁) ရာခိုင်နှုန်း အင်အားထက်မပိုသော ပြည်နယ်လုံခြုံရေးတပ်ဖွဲ့ကို ဖွဲ့စည်းနိုင်သည်။

(ဂ) အထက်ဖော်ပြပါ ပုဒ်မခွဲ (က) နှင့် (ခ) အရ ပြည်နယ်ရဲတပ်ဖွဲ့နှင့် ပြည်နယ်လုံခြုံရေးတပ်ဖွဲ့များ၏ အင်အားသတ်မှတ်ချက်အား ထူးခြားသော အခြေအနေအရ တိုးချဲ့သတ်မှတ်ပေးရန်လိုအပ်ပါက ပြည်နယ်တခုခုသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ တောင်းခံနိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၅၅) ပြည်နယ်သစ်များဖွဲ့စည်းပိုင်ခွင့်

ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်တခုအတွင်းရှိ တဆက်တစပ်တည်းရှိသောဒေသများကို အခြေခံ၍သော်လည်းကောင်း၊ ပြည်နယ်နှစ်ခု (သို့မဟုတ်) နှစ်ခုထက်ပိုသော ပြည်နယ်များအတွင်းရှိ တဆက်တစပ်တည်းရှိသော ဒေသများကို ပေါင်းစပ်၍သော်လည်းကောင်း ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်သစ်များကို ဖွဲ့စည်းနိုင်သည်။

## ပုဒ်မ (၅၆) ပြည်နယ်သစ်များဖွဲ့စည်းရေးဆိုင်ရာပြဋ္ဌာန်းချက်

ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်သစ်များကို ဖွဲ့စည်းသောအခါ အောက်ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဖြစ်စေရမည်။

(က) တိုင်းရင်းသားလူမျိုးတမျိုးမျိုးသည် မိမိတို့၏ ကိုယ်ပိုင်ထင်ရှားချက်ဖြစ်သော ပထဝီဒေသနှင့် သမိုင်းကြောင်းအရ ဖက်ဒရယ်ပြည်ထောင်စု အဖွဲ့ဝင်သီးခြား ပြည်နယ်တခုအဖြစ် နေထိုင်လိုသောဆန္ဒရှိကြောင်း၊ ပြည်နယ်သစ်ဖွဲ့စည်းလိုသော တိုင်းရင်းသားလူမျိုးစုများ နေထိုင်ရာဒေသအတွင်းရှိ ပြည်သူလူထု၏ (၃၀) ရာခိုင်နှုန်း ထောက်ခံမှုဖြင့် သက်ဆိုင်ရာ ပြည်နယ်လွှတ်တော် (သို့မ

ဟုတ်) ပြည်နယ်များ၏ လွှတ်တော်များထံသို့ ပြည်နယ်သစ် ဖွဲ့စည်းရေးအဆိုကို တင်သွင်းရမည်။

(ခ) ထိုပြည်နယ်သစ် ဖွဲ့စည်းရေးအဆိုကို သက်ဆိုင်ရာပြည်နယ်လွှတ်တော် (သို့မဟုတ်) ပြည်နယ်လွှတ်တော်များ၏ ထက်ဝက်ကျော် ထောက်ခံမှုဖြင့် အမျိုးသားလွှတ်တော်သို့ ပြည်နယ်သစ် ဖွဲ့စည်းရေးအဆိုကို တင်သွင်းရမည်။

(ဂ) အမျိုသားလွှတ်တော်သည် ပုဒ်မ (၅၆) ပုဒ်မခွဲ (ခ) အရ တင်ပြလာသော အဆိုအပေါ်တွင် အမျိုးသားလွှတ်တော်နှင့် ပြည်နယ်လွှတ်တော် (သို့မဟုတ်) ပြည်နယ်လွှတ်တော်များ၏ ကိုယ်စားလှယ်များပါဝင်သော ပြည်နယ်သစ် ဖွဲ့စည်းရေးဆိုင်ရာ စုံစမ်းရေးကော်မရှင်တရပ်ကို ဖွဲ့စည်းစေရမည်။

(ဃ) ပြည်နယ်သစ်ဖွဲ့စည်းရေးဆိုင်ရာ စုံစမ်းရေးကော်မရှင်၏ တင်ပြချက်နှင့်အညီ ပြည်နယ်သစ်ဖွဲ့စည်းရန် အဆိုပြုထားသော တိုင်းရင်းသားလူမျိုးစုများ နေထိုင်ရာဒေသအတွင်းရှိ ပြည်သူလူထု၏ ဆန္ဒခံယူပွဲကို ကျင်းပပေးရမည်။

(င) ဆန္ဒခံယူပွဲတွင် ပြည်နယ်သစ်ဖွဲ့စည်းလိုသော တိုင်းရင်းသားလူမျိုးစုများနေထိုင်ရာဒေသအတွင်းရှိ ပြည်သူလူထု၏ (၆၀) ရာခိုင်နှုန်းကျော်သော ထောက်ခံဆန္ဒမဲကို ရရှိပါက ပြည်နယ်သစ်ဖွဲ့စည်းခြင်းသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ အတည်ဖြစ်စေရမည်။

(စ) ပုဒ်မ (၅၆) ပုဒ်မခွဲ (င) နှင့်အညီ ပြည်နယ်သစ်ဖွဲ့စည်းရေးဆိုင်ရာ အတည်ပြုချက်ကိုရရှိပြီးပါက အမျိုးသားလွှတ်တော်သည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ ဆက်လက်တင်သွင်း၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က လိုအပ်သလို ဥပဒေအဖြစ် ပြဋ္ဌာန်းပေးရမည်။

(ဆ) နိုင်ငံတော်သမ္မတသည် အဆိုပါဥပဒေကို လက်မှတ်ရေးထိုး၍ ထုတ်ပြန်ပေးရမည်။

(ဇ) အဆိုပါဥပဒေကို သက်ဆိုင်ရာပြည်နယ် (သို့မဟုတ်) ပြည်နယ်များက လိုအပ်သလို ဆက်လက်အကောင်အထည်ဖော်ရန် သက်ဆိုင်ရာပြည်နယ်ဥပဒေပြုလွှတ်တော်အသီးသီးသို့ ပေးပို့ရမည်။

## ပုဒ်မ (၅၇) ပြည်နယ်သစ်များဆိုင်ရာဥပဒေပြုခြင်း

အထက်ပုဒ်မ (၅၅) နှင့် (၅၆) တို့တွင်ပြဋ္ဌာန်းထားသည့် ပြည်နယ်သစ်များ ဖွဲ့စည်းခြင်းနှင့်ပတ်သက်၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၅၈) ဖက်ဒရယ်ပြည်ထောင်စု နယ်မြေသတ်ချက်ဆိုင်ရာဥပဒေပြုခြင်း

အထက်ပုဒ်မ (၄၉) (ခ) တွင်ပြဋ္ဌာန်းထားသည့် ဖက်ဒရယ်ပြည်ထောင်စုနယ်မြေ သတ်မှတ်ခြင်းနှင့်ပတ်သက်၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြဋ္ဌာန်း ပေးရမည်။

## ပုဒ်မ (၅၉) ပြည်နယ်များကျင့်သုံးပိုင်ခွင့်မရှိသောအာဏာများ

ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များသည် နိုင်ငံခြားတိုင်းတပါးနှင့် စစ်ရေး မဟာမိတ်ပြုခြင်း၊ စစ်ဖက်ဆိုင်ရာ စာချုပ်ချုပ်ဆိုခြင်း၊ မိမိပြည်နယ်အတွင်း သီးခြား သုံးစွဲရန် ငွေစက္ကူနှင့် ငွေဒင်္ဂါးထုတ်လုပ်ခြင်း၊ အာဏာတို့ကို ကျင့်သုံးပိုင်ခွင့် မရှိစေရ။

# အခန်း (၄)
# ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်
# Assembly of Federal Union

(က) အမျိုးသားလွှတ်တော်
(ခ) ပြည်သူ့လွှတ်တော်

### ပုဒ်မ (၆၀) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်ဖွဲ့စည်းမှု

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်ကို အမျိုးသားလွှတ်တော် (Chamber of Nationalities) နှင့် ပြည်သူ့လွှတ်တော် (Chamber of People's Representatives) တို့ဖြင့် ဖွဲ့စည်းသည်။

### ပုဒ်မ (၆၁) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏အာဏာ

ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ အပ်နှင်းထားသည့် ဥပဒေပြုအာဏာအားလုံးသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်တွင် တည်ရှိသည်။

### ပုဒ်မ (၆၂) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်ပုံမှန်အစည်းအဝေး

(က) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ ပုံမှန်အစည်းအဝေးကို တနှစ်လျှင် အနည်းဆုံးတကြိမ် ကျင်းပရမည်။
(ခ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ ပုံမှန်အစည်းအဝေးကို ခေါ်ယူကျင်းပရန် အနည်းဆုံးရက်ပေါင်း (၆၀) ကြိုတင်၍ ကြေညာရမည်။
(ဂ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် ပုံမှန်အစည်းအဝေးကို ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ခေါ်ယူပေးရမည်။
(ဃ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် ပုံမှန်အစည်းအဝေးတိုင်းတွင် ဖက်ဒရယ်ပြည်ထောင်စုတဝှမ်းလုံးဆိုင်ရာ အခြေအနေများနှင့်စပ်လျဉ်း၍ မိန့်ခွန်းမြွက်ကြားရမည်။

### ပုဒ်မ (၆၃) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် အထူးအစည်းအဝေးနှင့် အရေးပေါ် အစည်းအဝေးများ

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အထူးအစည်းအဝေးနှင့် အရေးပေါ် အစည်းအဝေးများကို —
(က) အောက်ပါကိစ္စရပ်များအတွက် ခေါ်ယူခွင့် ရှိစေရမည်။

(၁) ဖွဲ့စည်းပုံအခြေခံဥပဒေပြင်ဆင်ချက်ကို အတည်ပြုခြင်း။
(၂) နိုင်ငံတော်အရေးပေါ်အခြေအနေ ကြေညာချက်အား အတည်ပြုခြင်း၊ သို့တည်းမဟုတ်၊ ပယ်ဖျက်ခြင်း။
(၃) ပြည်ပနိုင်ငံတခုအပေါ် စစ်ကြေညာခြင်း၊ စစ်ရပ်စဲခြင်းတို့ကို အတည်ပြုခြင်း၊ သို့တည်းမဟုတ်၊ ပယ်ဖျက်ခြင်း။
(၄) ဖက်ဒရယ်ပြည်ထောင်စုသမ္မတကို အတည်ပြုခန့်အပ်ခြင်း၊ ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများ ခန့်အပ်ခြင်း။

(ခ) အမျိုးသားလွှတ်တော် (သို့မဟုတ်) ပြည်သူ့လွှတ်တော်တရပ်ရပ်၏ အများစုဆန္ဒမဲဖြင့် တောင်းဆိုလျှင်ဖြစ်စေ၊ ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်က တောင်းဆိုလျှင်ဖြစ်စေ သမ္မတက ဆင့်ခေါ်ပေးရမည်။
(ဂ) အစည်းအဝေးမကျင်းပမီ အနည်းဆုံး (၇) ရက် ကြိုတင်၍ ကြေညာရမည်။

## ပုဒ်မ (၆၄) ဖက်ရယ်ပြည်ထောင်စုလွှတ်တော် အစည်းအဝေးများအထမြောက်ခြင်း

အမျိုးသားလွှတ်တော်၏ ကိုယ်စားလှယ် ထက်ဝက်ကျော်နှင့် ပြည်သူ့လွှတ်တော်၏ ကိုယ်စားလှယ် ထက်ဝက်ကျော် တက်ရောက်မှသာလျှင် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်အစည်းအဝေး အထမြောက်စေရမည်။

## ပုဒ်မ (၆၅) ဆန္ဒမဲရယူခြင်း

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် အစည်းအဝေးများ၌ ဆုံးဖြတ်ချက်ရယူရာတွင် အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်မှ တက်ရောက်လာကြသော လွှတ်တော်တရပ်ချင်းစီမှ ကိုယ်စားလှယ်များ၏ အများစုဆန္ဒမဲ ရရှိစေရမည်။

## ပုဒ်မ (၆၆) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏သဘာပတိ

(က) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အစည်းအဝေးများတွင် အမျိုးသားလွှတ်တော်ဥက္ကဋ္ဌနှင့် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ တဦးဦးသည် အလှည့်ကျသဘာပတိအဖြစ် ဆောင်ရွက်ရမည်။ လွှတ်တော်ဥက္ကဋ္ဌ တဦးဦးဆိုသည့်စကားရပ်တွင် ဒုတိယဥက္ကဋ္ဌလည်း အကျုံးဝင်သည်။
(ခ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် သဘာပတိသည် ပြည်ထောင်စုလွှတ်တော် အစည်းအဝေးများနှင့် လွှတ်တော်ကိုယ်စားလှယ်များ၏ စည်းကမ်းလိုက်နာမှုကို ထိန်းသိမ်းကြီးကြပ်ခွင့် အာဏာရှိစေရမည်။
(ဂ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်တွင် မဲခွဲဆုံးဖြတ်ရန် လိုအပ်သောကိစ္စရပ်များ၌ ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို အထောက်အထား

ပြု၍ မဲအရေအတွက် တူညီနေသောအခါ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် သဘာပတိသည် အဆုံးအဖြတ်မဲကို ပေးနိုင်ခွင့်ရှိ၍ အနိုင်မဲကိုပေးရမည်။

## ပုဒ်မ (၆၇) လွှတ်တော်နှစ်ရပ်စလုံးတွင် တပြိုင်နက်တည်းကိုယ်စားလှယ်ဖြစ်ခွင့် မရှိခြင်း

လွှတ်တော်ကိုယ်စားလှယ်တဦးသည် အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော် နှစ်ရပ်စလုံးတွင် တပြိုင်နက်တည်း ကိုယ်စားလှယ်မဖြစ်စေရ။

## ပုဒ်မ (၆၈) ကင်းလွတ်ခွင့်အခွင့်အရေး

(က) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အစည်းအဝေးတရပ်ရပ်တွင် မဲပေးခြင်း၊ ပြောဆိုဆွေးနွေးခြင်း၊ ရေးသားဖြန့်ဝေခြင်း စသည်တို့နှင့်စပ်လျဉ်း၍ မည်သည့် လွှတ်တော်ကိုယ်စားလှယ်ကိုမျှ စစ်ဆေးမေးမြန်းခြင်း၊ အရေးယူခြင်း၊ တရားစွဲဆို ခြင်း မပြုရ။

(ခ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် အစည်းအဝေးကျင်းပနေစဉ်အတော အတွင်း မည်သည့် လွှတ်တော်ကိုယ်စားလှယ်ကိုမျှ ပြစ်မှုကျူးလွန်နေစဉ်တွင် ဖမ်းဆီးအရေးယူခြင်းမှလွဲ၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် ဥက္ကဋ္ဌ၏ ခွင့်ပြုချက်မရှိပဲ ပြစ်မှုတစုံတရာအတွက် ဖမ်းဆီးခြင်း၊ အရေးယူအပြစ်ပေးခြင်း မရှိစေရ။

## ပုဒ်မ (၆၉) ထောက်ပံ့ကြေး

ဖက်ဒရယ်ပြည်ထောင်စု လွှတ်တော်ကိုယ်စားလှယ်များသည် သင့်တင့်လျောက် ပတ်သည့် ငွေကြေးနှင့်ခံစားခွင့်ကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေဖြင့် သတ်မှတ်ပြဋ္ဌာန်းပေးသည့်အတိုင်း ခံစားပိုင်ခွင့် ရှိစေရမည်။ ထောက်ပံ့ကြေးတိုးမြှင့် ကြောင်း ဆုံးဖြတ်ချက်သည် နောင်လာမည့် လွှတ်တော်သက်တမ်း အသစ်၌သာ စတင်၍ အကျိုးသက်ရောက် စေရမည်။

## ပုဒ်မ (၇၀) နိုင်ငံတကာသဘောတူညီချက်များ၊ စာချုပ်များ

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် ဖက်ဒရယ်ပြည်ထောင်စုအစိုးရက လက်မှတ်ရေးထိုးခဲ့ပြီးသော နိုင်ငံတကာသဘောတူညီချက်များ၊ စာချုပ်များကို အတည်ပြုခြင်း (သို့တည်းမဟုတ်) ပယ်ချခြင်း ပြုလုပ်ရမည်။

### ပုဒ်မ (၇၁) ပြည်ထောင်စုလွှတ်တော်ဆိုင်ရာစည်းမျဉ်းစည်းကမ်းများ

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်ဆိုင်ရာ စည်းမျဉ်းစည်းကမ်းနှင့် လုပ်ထုံးလုပ်နည်းများကို သတ်မှတ်ပြဋ္ဌာန်းရမည်။

## အမျိုးသားလွှတ်တော်
## Chamber of Nationalities

### ပုဒ်မ (၇၂) အမျိုးသားလွှတ်တော်ကို ဖွဲ့စည်းခြင်း

(က) အမျိုးသားလွှတ်တော်ကို ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်အသီးသီး က အရေအတွက် တူညီစွာစေလွှတ်သည့် ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းရမည်။
(ခ) အမျိုးသားလွှတ်တော်သို့ ဖက်ဒရယ်ပြည်ထောင်စု အဖွဲ့ဝင်ပြည်နယ်အသီးသီး က ကိုယ်စားလှယ် (၆) ဦးကျစီ စေလွှတ်ရမည်။

### ပုဒ်မ (၇၃) အမျိုးသားလွှတ်တော်ကိုယ်စားလှယ်ရွေးချယ်ခြင်း

(က) အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များကို မဲဆန္ဒပေးပိုင်ခွင့်ရှိသော ပြည်သူလူထုက လွတ်လပ်၍တရားမျှတသည့် ရွေးကောက်ပွဲများတွင် တိုက်ရိုက်လျှို့ဝှက်မဲပေးခြင်းအားဖြင့် ရွေးချယ်တင်မြှောက်ရမည်။
(ခ) အမျိုးသားလွှတ်တော်ကိုယ်စားလှယ်အဖြစ် ဝင်ရောက်ယှဉ်ပြိုင်အရွေးခံမည့် နိုင်ငံသားတိုင်းသည် —
   (၁) ရွေးကောက်ပွဲကျင်းပမည့်နေ့ရက်တွင် အနည်းဆုံးအသက် (၂၅) နှစ်ပြည့်ပြီး ဖြစ်ရမည်။
   (၂) နိုင်ငံသားအဖြစ် အသိအမှတ်ပြုခံရခြင်း အနည်းဆုံး (၁၀) နှစ် ရှိရမည်။
   (၃) ကိုယ်စားပြုရွေးချယ်ခံမည့် ပြည်နယ်တွင် အခြေချနေထိုင်သူ ဖြစ်ရမည်။
   (၄) နိုင်ငံနှစ်ခု (သို့မဟုတ်) နိုင်ငံနှစ်ခုထက်ပိုသော နိုင်ငံသား မဖြစ်စေရ။
(ဂ) ပြည်နယ်အသီးသီးသည် အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များ ရွေးချယ်ရန်အတွက်နေရာနှင့် ကျင်းပရန်နည်းလမ်းများကို သက်ဆိုင်ရာပြည်နယ်ဥပဒေပြုလွှတ်တော်၌ ဥပဒေပြုပြဋ္ဌာန်းရမည်။

### ပုဒ်မ (၇၄) အမျိုးသားလွှတ်တော်၏ ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ

အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များသည် လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယ ဥက္ကဋ္ဌတို့ကို အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များထဲမှ ဆန္ဒမဲပေး၍ ရွေးကောက်

တင်မြှောက်ရမည်။ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌတို့သည် ပြည်နယ်တခုတည်းမှ ကိုယ်စားလှယ်များ မဖြစ်စေရ။

## ပုဒ်မ (၇၅) ကိုယ်စားလှယ်များ၏သက်တမ်း

အမျိုးသားလွှတ်တော် ကိုယ်စားလှယ်များ၏သက်တမ်းကို (၄) နှစ် သတ်မှတ်သည်။ ကိုယ်စားလှယ်ဦးရေ၏ ထက်ဝက်ကို (၂) နှစ်တကြိမ် ရွေးချယ်တင်မြှောက်၍ လဲလှယ်သွားရမည်။

## ပုဒ်မ (၇၆) အမျိုးသားလွှတ်တော် ပုံမှန်အစည်းအဝေး

(က) ရွေးကောက်ပွဲကျင်းပပြီးနောက် ရက်ပေါင်း (၆၀) အတွင်း ပထမအကြိမ် အမျိုးသားလွှတ်တော် အစည်းအဝေးကို ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ခေါ်ယူကျင်းပပေးရမည်။

(ခ) အမျိုးသားလွှတ်တော်၏ ပုံမှန်အစည်းအဝေးကို အနည်းဆုံး တနှစ်လျှင်တကြိမ် ကျင်းပရမည်။

(ဂ) အမျိုးသားလွှတ်တော် ပုံမှန်အစည်းအဝေးကို အမျိုးသားလွှတ်တော် ဥက္ကဋ္ဌက ခေါ်ယူပေးရမည်။

(ဃ) အမျိုးသားလွှတ်တော် ပုံမှန်အစည်းအဝေးကို ကျင်းပရန်အတွက် အနည်းဆုံး ရက်ပေါင်း (၃၀) ကြိုတင်၍ ကြေညာရမည်။

## ပုဒ်မ (၇၇) အမျိုးသားလွှတ်တော် အထူးအစည်းအဝေး (သို့တည်းမဟုတ်) အရေးပေါ်အစည်းအဝေး

(က) အနည်းဆုံး ပြည်နယ်နှစ်ခုမှ အမျိုးသားလွှတ်တော် ကိုယ်စားလှယ်အားလုံးက သော်လည်းကောင်း အမျိုးသားလွှတ်တော်၏ ကိုယ်စားလှယ် လေးပုံတပုံက သော်လည်းကောင်း တောင်းဆိုလာပါက အမျိုးသားလွှတ်တော်ဥက္ကဋ္ဌသည် အထူးအစည်းအဝေး (သို့တည်းမဟုတ်) အရေးပေါ် အစည်းအဝေးများကို ခေါ်ယူကျင်းပပေးရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်မှ တင်ပြတောင်းဆိုလာလျှင် အမျိုးသားလွှတ်တော်ဥက္ကဋ္ဌသည် အမျိုးသားလွှတ်တော် အထူးအစည်းအဝေး (သို့တည်းမဟုတ်) အရေးပေါ်အစည်းအဝေးကို ခေါ်ယူကျင်းပနိုင်သည်။

(ဂ) အမျိုးသားလွှတ်တော် အထူးအစည်းအဝေး (သို့တည်းမဟုတ်) အရေးပေါ် အစည်းအဝေး ခေါ်ယူကျင်းပရန်အတွက် အနည်းဆုံး (၁၅) ရက် ကြိုတင် အကြောင်းကြားရမည်။

## ပုဒ်မ (၇၈) အစည်းအဝေးအထမြောက်ခြင်းနှင့် မဲပေးခြင်း

(က) အမျိုးသားလွှတ်တော် ကိုယ်စားလှယ်ဦးရေ၏ ထက်ဝက်ကျော်တက်ရောက်လျှင် အမျိုးသားလွှတ်တော်အစည်းအဝေးကို ကျင်းပနိုင်သည်။

(ခ) သို့ရာတွင် မဲခွဲဆုံးဖြတ်ရန်အတွက်ဖြစ်ပါက အမျိုးသားလွှတ်တော်၏ ကိုယ်စားလှယ်ဦးရေ သုံးပုံနှစ်ပုံ တက်ရောက်မှသာ အစည်းအဝေးအထမြောက်စေရမည်။ အမျိုးသားလွှတ်တော်ကိုယ်စားလှယ် သုံးပုံနှစ်ပုံ တက်ရောက်သောအစည်းအဝေးတွင် အများစုဆန္ဒမဲကိုရယူ၍ ဆုံးဖြတ်ချက်များ ချမှတ်နိုင်သည်။ သို့ရာတွင် မဲအရေအတွက် တူညီနေသောအခါ အမျိုးသားလွှတ်တော်ဥက္ကဋ္ဌသည် အဆုံးအဖြတ်မဲကို ပေးနိုင်ခွင့်ရှိ၍ အနိုင်မဲကိုပေးရမည်။

## ပုဒ်မ (၇၉) အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ၏ အခွင့်အာဏာ

အမျိုးသားလွှတ်တော်ဥက္ကဋ္ဌသည် အမျိုးသားလွှတ်တော်အစည်းအဝေးများနှင့် လွှတ်တော်ကိုယ်စားလှယ်များ၏ စည်းကမ်းလိုက်နာမှုကို ထိန်းသိမ်းကြီးကြပ်ခွင့်အာဏာရှိစေရမည်။ အမျိုးသားလွှတ်တော်၏ ဥပစာအတွင်း အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ၏ ခွင့်ပြုချက်မရှိပဲ မည်သူမျှ ဝင်ရောက်ရှာဖွေခြင်း၊ ဖမ်းဆီးခြင်း ပြုပိုင်ခွင့်မရှိစေရ။

## ပုဒ်မ (၈၀) အမျိုးသားလွှတ်တော်၏ ရေးရာကော်မတီများဖွဲ့စည်းခြင်း

အမျိုးသားလွှတ်တော်တွင် နိုင်ငံခြားရေးရာကော်မတီ၊ ကာကွယ်ရေးဆိုင်ရာရေးရာကော်မတီ၊ ဘဏ္ဍာရေးရာကော်မတီ နှင့် ကူးသန်းရောင်းဝယ်ရေးရာကော်မတီများအပါအဝင် လိုအပ်သော ရေးရာကော်မတီများကို အမျိုးသားလွှတ်တော်၏ ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းနိုင်ခွင့်ရှိသည်။

## ပုဒ်မ (၈၁) အမျိုးသားလွှတ်တော်ဆိုင်ရာစည်းမျဉ်းစည်းကမ်းများ

အမျိုးသားလွှတ်တော်သည် အမျိုးသားလွှတ်တော်ဆိုင်ရာ စည်းမျဉ်းစည်းကမ်းလုပ်ထုံးလုပ်နည်းများကို သတ်မှတ်ပြဋ္ဌာန်းရမည်။

# ပြည်သူ့လွှတ်တော်
# Chamber of People's Representatives

## ပုဒ်မ (၈၂) ပြည်သူ့လွှတ်တော်ဖွဲ့စည်းခြင်း

ပြည်သူ့လွှတ်တော်ကို လူဦးရေအပေါ်တွင် အခြေခံသော ရွေးကောက်ပွဲများတွင် နိုင်ငံသားများက ရွေးချယ်တင်မြှောက်လိုက်သည့် ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းသည်။

## ပုဒ်မ (၈၃) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်ရွေးချယ်ခြင်း

(က) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များကို မဲဆန္ဒပေးပိုင်ခွင့်ရှိသော ပြည်သူလူထုက လွတ်လပ်၍ တရားမျှတသည့် အထွေထွေရွေးကောက်ပွဲများတွင် တိုက်ရိုက်လျှို့ဝှက်မဲပေးခြင်းအားဖြင့် ရွေးချယ်တင်မြှောက်ရမည်။

(ခ) ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များ၏ အရေအတွက်နှင့် မဲဆန္ဒနယ်မြေများသည် ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြု သတ်မှတ်ပြဋ္ဌာန်းပေးသည့် အတိုင်း ဖြစ်စေရမည်။

## ပုဒ်မ (၈၄) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အရည်အချင်း

ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အဖြစ် ဝင်ရောက်ယှဉ်ပြိုင် အရွေးခံမည့် နိုင်ငံသားတိုင်းသည် —

(က) ရွေးကောက်ပွဲကျင်းပသည့်နေ့တွင် အသက် (၂၅) နှစ်ပြည့်ပြီးသော ဖက်ဒရယ် ပြည်ထောင်စုနိုင်ငံသား ဖြစ်ရမည်။

(ခ) ဥပဒေအရ နိုင်ငံသားဖြစ်လာသူဖြစ်လျှင် နိုင်ငံသားဖြစ်ပြီးနောက် ဖက်ဒရယ် ပြည်ထောင်စုအတွင်း အနည်းဆုံး (၁၀) နှစ် ဆက်တိုက် နေထိုင်ခဲ့သူ ဖြစ်ရမည်။

(ဂ) နိုင်ငံနှစ်ခု (သို့မဟုတ်) နိုင်ငံနှစ်ခုထက်ပိုသော နိုင်ငံသား မဖြစ်စေရ။

## ပုဒ်မ (၈၅) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ

ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များသည် လွှတ်တော်ဥက္ကဋ္ဌနှင့် ဒုတိယဥက္ကဋ္ဌ တို့ကို ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များထဲမှ ဆန္ဒမဲပေး၍ ရွေးကောက် တင်မြှောက်ရမည်။

## ပုဒ်မ (၈၆) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်သက်တမ်း

(က) ပြည်သူ့လွှတ်တော်၏ ပုံမှန်သက်တမ်းသည် (၄) နှစ်ဖြစ်သည်။ ပြည်သူ့လွှတ်တော်၏သက်တမ်းကို သက်ဆိုင်ရာပြည်သူ့လွှတ်တော်၏ ပထမအကြိမ်အစည်းအဝေးကျင်းပသည့် နေ့မှစ၍ စတင်ရေတွက်ရမည်။

(ခ) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များ၏ သက်တမ်းသည် ပြည်သူ့လွှတ်တော်၏ သက်တမ်းနှင့်အညီ ဖြစ်စေရမည်။

## ပုဒ်မ (၈၇) ပြည်သူ့လွှတ်တော်ရွေးကောက်ပွဲများကျင်းပခြင်း

ပြည်သူ့လွှတ်တော်တခု၏ ပုံမှန်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံးရက်ပေါင်း (၆၀) အလိုတွင် နောက်သက်တမ်းအသစ်အတွက် ပြည်သူ့လွှတ်တော် အထွေထွေရွေးကောက်ပွဲ ကျင်းပရမည်။

## ပုဒ်မ (၈၈) ပြည်သူ့လွှတ်တော်ပုံမှန်အစည်းအဝေး

(က) အထွေထွေရွေးကောက်ပွဲ ကျင်းပပြီးနောက် ရက်ပေါင်း (၆၀) အတွင်း ပထမအကြိမ် ပြည်သူ့လွှတ်တော်အစည်းအဝေးကို ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ခေါ်ယူပေးရမည်။

(ခ) ပြည်သူ့လွှတ်တော် ပုံမှန်အစည်းအဝေးကို အနည်းဆုံး တနှစ်လျှင်တကြိမ် ကျင်းပရမည်။

(ဂ) ပြည်သူ့လွှတ်တော် ပုံမှန်အစည်းအဝေးကို ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌက ခေါ်ယူပေးရမည်။

(ဃ) ပြည်သူ့လွှတ်တော် ပုံမှန်အစည်းအဝေးကို ကျင်းပရန်အတွက် အနည်းဆုံး ရက်ပေါင်း (၃၀) ကြိုတင်၍ ကြေညာရမည်။

## ပုဒ်မ (၈၉) ပြည်သူ့လွှတ်တော် အထူးအစည်းအဝေး (သို့တည်းမဟုတ်) အရေးပေါ်အစည်းအဝေး

(က) ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌသည် အောက်ဖော်ပြပါ အခြေအနေတရပ်ရပ်တွင် ပြည်သူ့လွှတ်တော် အထူးအစည်းအဝေးနှင့် အရေးပေါ်အစည်းအဝေးများကို ခေါ်ယူကျင်းပရမည်။

(၁) ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ညွှန်ကြားခြင်း

(၂) ပြည်ထောင်စုအစိုးရဝန်ကြီးချုပ်က တောင်းဆိုခြင်း။

(၃) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် လေးပုံတပုံက တောင်းဆိုခြင်း

(ခ) ပြည်သူ့လွှတ်တော် အထူးအစည်းအဝေး (သို့တည်းမဟုတ်) အရေးပေါ် အစည်းအဝေးခေါ်ယူ ကျင်းပရန်အတွက် အနည်းဆုံး (၁၅) ရက် ကြိုတင် အကြောင်းကြားရမည်။

## ပုဒ်မ (၉၀) ပြည်သူ့လွှတ်တော်အစည်းအဝေး အထမြောက်ခြင်း၊ မဲပေးခြင်း

ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်ဦးရေ (၃၀) ရာခိုင်နှုန်းကျော် တက်ရောက်လျှင် ပြည်သူ့လွှတ်တော် အစည်းအဝေးကျင်းပနိုင်သည်။ သို့ရာတွင် မဲခွဲဆုံးဖြတ်ရန် အတွက်ဖြစ်ပါက ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အားလုံး၏ ထက်ဝက်ကျော် တက်ရောက်မှသာ အစည်းအဝေးအထမြောက်စေရမည်။ ဆုံးဖြတ်ချက်များ ချမှတ် ရာတွင် တက်ရောက်သူများ၏ အများစုဆန္ဒမဲကို ရယူရမည်။ သို့ရာတွင် မဲအရေ အတွက် တူညီနေသောအခါ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌသည် အဆုံးအဖြတ်မဲကို ပေးနိုင်ခွင့်ရှိ၍ အနိုင်မဲကိုပေးရမည်။

## ပုဒ်မ (၉၁) ပြည်သူ့လွှတ်တော်ဖျက်သိမ်းခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စု အစိုးရဝန်ကြီး ချုပ်၏ အကြံပြုချက်အရ ပြည်သူ့လွှတ်တော်ကို ဖျက်သိမ်းရမည်၊ (သို့တည်း မဟုတ်) ရုပ်သိမ်းရမည်။

**ခြွင်းချက် ။ ။ သို့ရာတွင် ပြည်သူ့လွှတ်တော်၌ အစိုးရအဖွဲ့အပေါ် အယုံအကြည်မရှိ အဆို တင်သွင်းရာတွင် ဝန်ကြီးချုပ်သည် ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အများစု၏ ထောက်ခံမှုကို ဆက်လက်မရရှိသောအခါ၊ ဝန်ကြီးချုပ်က လွှတ်တော်ဖျက်သိမ်းရန် (သို့တည်းမဟုတ်) ရုပ်သိမ်းရန် အကြံပြုသော်လည်း ဖက်ဒရယ်ပြည်ထောင်စုသမ္မတ သည် ဝန်ကြီးချုပ်၏ အကြံပြုချက်ကို ငြင်းပယ်နိုင်သည်။ ဤကဲ့သို့သော အခြေအနေ မျိုးတွင် ဝန်ကြီးချုပ်အသစ်တဦး၏ အမည်စာရင်းကို တင်သွင်းရန်အတွက် ဖက်ဒရယ် ပြည်ထောင်စုသမ္မတသည် ပြည်သူ့လွှတ်တော်အား ချက်ခြင်းဆင့်ဆိုရမည်။**

(ခ) ပြည်သူ့လွှတ်တော်သည် ပုဒ်မ (၉၀) အပိုဒ်ခွဲ (က) ၏ ခြွင်းချက်အရ ဆင့်ဆိုခြင်းခံ ရပါက ဝန်ကြီးချုပ်အသစ်၏ အမည်စာရင်းကို (၁၅) ရက်အတွင်း တင်သွင်းရ မည်။ တင်သွင်းရန်ပျက်ကွက်ပါက ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ပြည် သူ့လွှတ်တော်ကို ဖျက်သိမ်းရမည်။

(ဂ) ပြည်သူ့လွှတ်တော်ကိုဖျက်သိမ်းပြီး ရွေးကောက်ပွဲအသစ်ကျင်းပ၍ အစိုးရတရပ် မဖွဲ့စည်းနိုင်မီ၊ ကြားကာလတွင် နိုင်ငံတော်ကို စီမံအုပ်ချုပ်ရန် ဖက်ဒရယ် ပြည်ထောင်စုသမ္မတသည် ကြားဖြတ်အစိုးရတရပ်ကို ဖွဲ့စည်းတာဝန်ပေးရမည်။

(ဃ) ပြည်သူ့လွှတ်တော်အား ဖျက်သိမ်းပြီးနောက် ရက်ပေါင်း (၆၀) ထက် နောက် မကျစေဘဲ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်ရွေးကောက်ပွဲများ ကျင်းပရမည်။

## ပုဒ်မ (၉၂) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၏ အခွင့်အာဏာ

ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌသည် ပြည်သူ့လွှတ်တော်အစည်းဝေးများနှင့် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များ၏ စည်းကမ်းလိုက်နာမှုကို ထိန်းသိမ်းကြီးကြပ်ခွင့်အာဏာရှိစေရမည်။ ပြည်သူ့လွှတ်တော် ဥပစာအတွင်း ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၏ ခွင့်ပြုချက်မရပဲ မည်သူမျှ ဝင်ရောက်ရှာဖွေခြင်း၊ ဖမ်းဆီးအရေးယူခြင်း ပြုပိုင်ခွင့်မရှိစေရ။

## ပုဒ်မ (၉၃) စုံစမ်းရေးကော်မရှင်

ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် လေးပုံတပုံကတောင်းဆိုလျှင်၊ ပြည်သူ့လွှတ်တော်သည် စုံစမ်းရေးကော်မရှင်တရပ်ကို ဖွဲ့စည်းရမည်။ ပြည်သူ့လွှတ်တော်သည် ကော်မရှင်၏ လုပ်ငန်းတာဝန်များကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းထားသော ကော်မရှင်ဖွဲ့စည်းခြင်းဆိုင်ရာ ဥပဒေနှင့်အညီ သတ်မှတ်ပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၉၄) ပြည်သူ့လွှတ်တော်၏ ရေးရာကော်မတီများဖွဲ့စည်းခြင်း

ပြည်သူ့လွှတ်တော်တွင် နိုင်ငံခြားရေးရာကော်မတီ၊ ကာကွယ်ရေးဆိုင်ရာရေးရာကော်မတီ၊ ဘဏ္ဍာရေးရာကော်မတီနှင့် ကူးသန်းရောင်းဝယ်ရေးရာကော်မတီများ အပါအဝင် လိုအပ်သောရေးရာကော်မတီများကို ပြည်သူ့လွှတ်တော်၏ ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းနိုင်ခွင့်ရှိသည်။

## ပုဒ်မ (၉၅) ပြည်သူ့လွှတ်တော်ဆိုင်ရာစည်းမျဉ်းစည်းကမ်းများ

ပြည်သူ့လွှတ်တော်သည် ပြည်သူ့လွှတ်တော်ဆိုင်ရာ စည်းမျဉ်းစည်းကမ်း လုပ်ထုံးလုပ်နည်းများကို သတ်မှတ်ပြဋ္ဌာန်းရမည်။

# အခန်း (၅)
# ဖက်ဒရယ်ပြည်ထောင်စုဥပဒေပြုခြင်း
# Federal Legislation

## ပုဒ်မ (၉၆) ဥပဒေကြမ်းများတင်သွင်းခြင်း

(က) ဥပဒေကြမ်းများကို ဖက်ဒရယ်ပြည်ထောင်စု အစိုးရကသော်လည်းကောင်း လွှတ်တော်တရပ်ရပ်၏ ကိုယ်စားလှယ်များကသော်လည်းကောင်း တင်သွင်းရမည်။

(ခ) ငွေဥပဒေကြမ်းများကို ပြည်သူ့လွှတ်တော်၌သာ စတင်တင်သွင်းရမည်။

(ဂ) သဘာဝသယံဇာတနှင့် စပ်လျဉ်းသော ဥပဒေကြမ်းများကို အမျိုးသားလွှတ်တော်၌သာ စတင်တင်သွင်းရမည်။

## ပုဒ်မ (၉၇) ဥပဒေကြမ်းများဥပဒေဖြစ်ခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စု ရသုံးခန့်မှန်းခြေ ငွေဥပဒေကြမ်းမှအပ ပြည်သူ့လွှတ်တော်တွင် စတင်တင်သွင်းသော ဥပဒေကြမ်းအားလုံးသည် အဆိုပါ လွှတ်တော်တွင် ထက်ဝက်ကျော် ဆန္ဒမဲရရှိပြီးနောက် အမျိုးသားလွှတ်တော်သို့ ဆက်လက်တင်သွင်းသောအခါ အမျိုးသားလွှတ်တော်ကိုယ်စားလှယ်များ၏ ထက်ဝက်ကျော် ဆန္ဒမဲရရှိမှသာလျှင် ထိုဥပဒေကြမ်းသည် ဥပဒေ ဖြစ်စေရမည်။

(ခ) အမျိုးသားလွှတ်တော်တွင် စတင်တင်သွင်းသော ဥပဒေကြမ်းသည် အဆိုပါ လွှတ်တော်တွင် ထက်ဝက်ကျော် ဆန္ဒမဲရရှိပြီးနောက် ပြည်သူ့လွှတ်တော်သို့ ဆက်လက်တင်သွင်းသောအခါ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ် ထက်ဝက်ကျော်၏ ဆန္ဒမဲရရှိမှသာလျှင် ထိုဥပဒေကြမ်းသည် ဥပဒေ ဖြစ်စေရမည်။

## ပုဒ်မ (၉၈) ဖက်ဒရယ်ပြည်ထောင်စု နှစ်စဉ်ရသုံးခန့်မှန်းခြေ ငွေဥပဒေကြမ်းအတည်ပြုခြင်း

ဖက်ဒရယ်ပြည်ထောင်စု နှစ်စဉ်ရသုံးခန့်မှန်းခြေ ငွေဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်တွင် စတင်တင်သွင်းရမည်။ ထိုဥပဒေကြမ်းကို ပြည်သူ့လွှတ်တော်တွင် သာမန်အများစုဆန္ဒမဲဖြင့် အတည်ပြုပြီးပါက အမျိုးသားလွှတ်တော်သို့ တင်ပို့ရမည်။ (၂၁) ရက်အတွင်း အမျိုးသားလွှတ်တော်မှ သာမန်အများစု ဆန္ဒမဲဖြင့် အတည်ပြုလျှင် ဥပဒေ ဖြစ်စေရမည်။

## ပုဒ်မ (၉၉) သာမန်အသုံးစရိတ်သုံးစွဲခြင်း

ဖက်ဒရယ်ပြည်ထောင်စုအစိုးရ၏ နှစ်စဉ်ရ/သုံးခန့်မှန်းခြေ ငွေဥပဒေကြမ်းကို ဘဏ္ဍာရေးနှစ်မကုန်ဆုံးမီ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က အတည်မပြုနိုင်သေးလျှင် ယမန်နှစ်က အတည်ပြုခဲ့သည့် ဖက်ဒရယ်ပြည်ထောင်စုအစိုးရ၏ ရ/သုံး ခန့်မှန်းခြေ ငွေစာရင်းပါ သာမန်အသုံးစရိတ် ခွင့်ပြုချက်ဘောင်အတွင်းမှ သုံးစွဲနိုင်သည်။

## ပုဒ်မ (၁၀၀) ပူးတွဲညှိနှိုင်းရေးကော်မတီ

(က) လွှတ်တော်တရပ်ရပ်က အတည်ပြုပြီးသော ဥပဒေကြမ်းတခုလုံးကိုဖြစ်စေ တစိပ်တပိုင်းကိုဖြစ်စေ အခြားလွှတ်တော်မှ အတည်ပြုနိုင်ခြင်းမရှိလျှင် ပူးတွဲညှိနှိုင်းရေးကော်မတီ ဖွဲ့စည်း၍ ထိုဥပဒေကြမ်းကို ညှိနှိုင်းမှုပြုရန် လွှတ်တော်တရပ်ရပ်ကဖြစ်စေ ဖက်ဒရယ်ပြည်ထောင်စုအစိုးရကဖြစ်စေ တောင်းဆိုနိုင်သည်။

(ခ) ပူးတွဲညှိနှိုင်းရေးကော်မတီကို လွှတ်တော်နှစ်ရပ်မှ တူညီသော ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းရမည်။

(ဂ) ပူးတွဲညှိနှိုင်းရေးကော်မတီသည် သက်ဆိုင်ရာလုပ်ငန်း ပြီးဆုံးသည်နှင့် ဖျက်သိမ်းပြီး ဖြစ်စေရမည်။

(ဃ) ပူးတွဲညှိနှိုင်းရေးကော်မတီတွင် ညှိနှိုင်းသော်လည်း သဘောတူညီမှုမရရှိပါက အဆိုပါ ဥပဒေကြမ်းသည် ဥပဒေဖြစ်ရန် အခွင့်အလမ်းမရှိသော ဥပဒေကြမ်း ဖြစ်စေရမည်။

(င) ပူးတွဲညှိနှိုင်းရေးကော်မတီတွင် သဘောတူညီမှု ရရှိသော်လည်း ပြင်ဆင်မှုရှိလျှင်သော်လည်းကောင်း၊ ပြောင်းလည်းမှုရှိလျှင်သော်လည်းကောင်း၊ ထိုဥပဒေကြမ်းအား စတင်တင်သွင်းသော လွှတ်တော်သို့ ပြန်လည်ပေးပို့ရမည်။ ယင်းလွှတ်တော်က အတည်ပြုပြီးနောက် အခြားလွှတ်တော်သို့ပေးပို့ရာ၌ ထိုလွှတ်တော်က ဆက်လက်အတည်ပြုလျှင် ဥပဒေ ဖြစ်စေရမည်။

(စ) အထက်ပုဒ်မခွဲ (င) အရ ပေးပို့သော်လည်း ပုဒ်မ (၉၇) ပြဋ္ဌာန်းချက်ပါ လုပ်ထုံးလုပ်နည်းအတိုင်း အတည်မပြုနိုင်သော ဥပဒေကြမ်းသည် ဥပဒေဖြစ်ရန် အခွင့်အလမ်းမရှိသော ဥပဒေကြမ်း ဖြစ်စေရမည်။

## ပုဒ်မ (၁၀၁) ဥပဒေဖြစ်ရန်အခွင့်အလမ်းမရှိသောဥပဒေကြမ်း

ဥပဒေဖြစ်ရန် အခွင့်အလမ်းမရှိသော ဥပဒေကြမ်းတခုကို ပယ်ချသည့်နေ့မှစ၍ နှစ်နှစ်အတွင်း မည်သည့် လွှတ်တော်တွင်မှ ထပ်မံတင်သွင်းခြင်း မရှိစေရ။

## ပုဒ်မ (၁၀၂) ထုတ်ပြန်ကြေညာခြင်း၊ အာဏာတည်ခြင်း

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ အတည်ပြုပြီးသော ဥပဒေကြမ်းတိုင်းကို ဖက်ဒရယ်ပြည်ထောင်စု သမ္မတက (၇) ရက်အတွင်း လက်မှတ်ရေးထိုးထုတ်ပြန်ကြေညာရမည်။ (၇) ရက်ကျော်လွန်လျှင် သမ္မတက လက်မှတ်ရေးထိုးခြင်းမရှိသော်လည်း အာဏာတည်စေရမည်။

## ပုဒ်မ (၁၀၃) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ သီးသန့် ဥပဒေပြုအာဏာအညွှန်း

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် အောက်ပါ စာရင်းပါကိစ္စများအလို့ငှာ သီးသန့်ဥပဒေပြုအာဏာ ရှိစေရမည်။

### (က) ကာကွယ်ရေးနှင့် လုံခြုံရေးကဏ္ဍ

(၁) ဖက်ဒရယ်ပြည်ထောင်စုလက်နက်ကိုင်တပ်ဖွဲ့များနှင့် အမျိုးသားလုံခြုံရေးဆိုင်ရာအဖွဲ့များဥပဒေ
(၂) ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်ဥပဒေ
(၃) ဖက်ဒရယ်ပြည်ထောင်စုထောက်လှမ်းရေးအဖွဲ့ဥပဒေ
(၄) အမျိုးသားလုံခြုံရေးကောင်စီဥပဒေ
(၅) ဖက်ဒရယ်ပြည်ထောင်စု ရဲတပ်ဖွဲ့ ဥပဒေ
(၆) လက်နက်နှင့် ပေါက်ကွဲစေတတ်သော ခဲယမ်းမီးကျောက်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ တင်သွင်းခြင်း၊ တင်ပို့ခြင်းဆိုင်ရာဥပဒေ
(၇) နိုင်ငံသားများ စစ်မှုထမ်းရေးဆိုင်ရာဥပဒေ

### (ခ) နိုင်ငံခြားရေးကဏ္ဍ

(၁) အပြည်ပြည်ဆိုင်ရာ၊ ဒေသဆိုင်ရာနှင့် နှစ်ပြည်ထောင်ဆိုင်ရာ စာချုပ်စာတမ်းများ သဘောတူညီချက်များဥပဒေ
(၂) နိုင်ငံကူးလက်မှတ်နှင့် လူဝင်မှုကြီးကြပ်ရေးဆိုင်ရာဥပဒေ
(၃) ကုလသမဂ္ဂနှင့် သံတမန်ဆိုင်ရာကိစ္စရပ်များဥပဒေ

### (ဂ) စီးပွားရေးနှင့် ဘဏ္ဍာရေးကဏ္ဍ

(၁) ငွေစက္ကူနှင့် ငွေဒင်္ဂါးထုတ်လုပ်ခြင်း၊ ဖြန့်ဝေခြင်းဆိုင်ရာဥပဒေ
(၂) ဖက်ဒရယ်ပြည်ထောင်စု၏နှစ်စဉ် ရသုံးခန့်မှန်းခြေငွေစာရင်းဆိုင်ရာဥပဒေ
(၃) နိုင်ငံတကာ ကုန်သွယ်ရေးနှင့် ကူးသန်းရောင်းဝယ်ရေးဆိုင်ရာဥပဒေ

(၄) နိုင်ငံတကာ ငွေးကြေးဆိုင်ရာအဖွဲ့အစည်းများနှင့် ဆက်သွယ်ခြင်းဆိုင်ရာ ဥပဒေ
(၅) သွင်းကုန်ထုတ်ကုန်အခွန်ကောက်ခံခြင်းဆိုင်ရာဥပဒေ
(၆) ဖက်ဒရယ်ပြည်ထောင်စုဗဟိုဘဏ်ဥပဒေ

**(ဃ) ဆက်သွယ်ရေးနှင့် ပို့ဆောင်ရေးကဏ္ဍ**

(၁) စာတိုက်နှင့် ကြေးနန်းဆက်သွယ်ရေးဥပဒေ
(၂) ပြည်ထောင်စုဆိုင်ရာ ရေဒီယိုနှင့် ရုပ်မြင်သံကြားလုပ်ငန်းများဥပဒေ
(၃) ဖက်ဒရယ်ပြည်ထောင်စု အဝေးပြေးကားလမ်းများ၊ ရထားလမ်းများ၊ ရေကြောင်းလမ်းများ၊ ကမ်းရိုးတန်းနှင့် ပင်လယ်ရေကြောင်းသွားလာရေးများနှင့် လေကြောင်းလုပ်ငန်းများဆိုင်ရာဥပဒေ

**(င) ပညာရေးကဏ္ဍ**

(၁) ဘွဲ့လွန်ပညာရေး၊ ပုဂ္ဂလိကကျောင်းများဆိုင်ရာဥပဒေ
(၂) အဆင့်မြင့်သိပ္ပံနှင့် နည်းပညာဆိုင်ရာဥပဒေ
(၃) အခြေခံပညာကို အခမဲ့သင်ကြားခွင့်ဆိုင်ရာဥပဒေ

**(စ) ကျန်းမာရေးနှင့် လူမှုဖူလုံရေးကဏ္ဍ**

(၁) ပြည်ထောင်စုဆိုင်ရာ ကျန်းမာရေးကိစ္စရပ်များဥပဒေ
(၂) ကလေးသူငယ်များ၊ အမျိုးသမီးများ၊ မသန်မစွမ်းသူများနှင့် သက်ကြီးရွယ်အိုများ စောင့်ရှောက်ရေးဆိုင်ရာဥပဒေ
(၃) ကလေးများအခွင့်အရေးဆိုင်ရာဥပဒေ

**(ဆ) တရားရေးကဏ္ဍ**

(၁) ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ်၏ သီးသန့်စီရင်ပိုင်ခွင့်ဆိုင်ရာဥပဒေ
(၂) ဖွဲ့စည်းပုံအခြေခံဥပဒေတရားရုံး ကိုယ်စားလှယ်များ ရွေးချယ်ခြင်းဆိုင်ရာဥပဒေ
(၃) ဖက်ဒရယ်ပြည်ထောင်စု တရားရုံးများဖွဲ့စည်းခြင်းနှင့် ဖက်ဒရယ်တရားသူကြီးများ ခန့်အပ်ခြင်းဆိုင်ရာဥပဒေ
(၄) ဓလေ့ထုံးတမ်း ကွဲပြားခြားနားသူများအကြား လက်ထပ်ထိမ်းမြားခြင်း လင်မယားကွာရှင်းခြင်းနှင့် အမွေဆက်ခံခြင်းဆိုင်ရာဥပဒေ

## (ဇ) လွှတ်တော်များရေးရာကဏ္ဍ

(၁) အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်ကော်မရှင်ဖွဲ့စည်းခြင်းဆိုင်ရာဥပဒေ

(၂) ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များ ရွေးကောက်တင်မြှောက်ခြင်းဥပဒေ

(၃) ပြည်သူ့လွှတ်တော် စုံစမ်းစစ်ဆေးရေးကော်မရှင်များဆိုင်ရာဥပဒေ

## (ဈ) စက်မှုလက်မှုကဏ္ဍ

(၁) အလေးချိန်နှင့် ခြင်တွယ်တိုင်းတာခြင်းဆိုင်ရာဥပဒေ

(၂) ကူးယူဖြန့်ချီခွင့်၊ နည်းပညာမူပိုင်ခွင့်၊ ဒီဇိုင်းနှင့် တံဆိပ်အမှတ်အသားဆိုင်ရာဥပဒေ

(၃) အလုပ်ချိန်၊ အနိမ့်ဆုံးလုပ်ခ၊ အလုပ်ပိတ်ရက်များနှင့် လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး စံနှုန်းသတ်မှတ်ချက် ဆိုင်ရာဥပဒေ

## (ည) အရပ်ရပ်ဆိုင်ရာကဏ္ဍ

(၁) နိုင်ငံရေးပါတီများဆိုင်ရာဥပဒေ

(၂) ပြည်နယ်သစ်များဖွဲ့စည်းခြင်းဆိုင်ရာဥပဒေ

(၃) အသင်းအဖွဲ့များနှင့် သမဂ္ဂများဖွဲ့စည်းခြင်းဆိုင်ရာဥပဒေ

(၄) ဖက်ဒရယ်ပြည်ထောင်စုမြို့တော် သတ်မှတ်ခြင်းဥပဒေ

(၅) ဖက်ဒရယ်ပြည်ထောင်စုသမ္မတ ရွေးချယ်တင်မြှောက်ခြင်းဆိုင်ရာဥပဒေ

(၆) နိုင်ငံရေးတာဝန်ထမ်းဆောင်သူ ပုဂ္ဂိုလ်များ၏ ငွေကြေးနှင့်ပစ္စည်းဥစ္စာပိုင်ဆိုင်မှုဆိုင်ရာဥပဒေ

(၇) ဖက်ဒရယ်ပြည်ထောင်စု (အဝေးရောက်) နိုင်ငံသားများ၏ အခွင့်အရေးနှင့် တာဝန်ဝတ္တရားများဆိုင်ရာဥပဒေ

(၈) လူဦးရေသန်းခေါင်စာရင်း ကောက်ခံခြင်းဆိုင်ရာဥပဒေ

(၉) ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသားဖြစ်ခြင်းနှင့် နိုင်ငံခြားသားများ နိုင်ငံသားဖြစ်ခြင်းဆိုင်ရာဥပဒေ

(၁၀) နိုင်ငံတော်အရေးပေါ်အခြေအနေဆိုင်ရာဥပဒေ

(၁၁) လူထုဆန္ဒဖော်ထုတ်ခြင်းနှင့် လုပ်ထုံးလုပ်နည်းများဆိုင်ရာဥပဒေ

(၁၂) အမှန်တရား ဖော်ထုတ်ရေးနှင့် ပြန်လည်သင့်မြတ်ရေးကော်မရှင်ဥပဒေ

## ပုဒ်မ (၁၀၄) ထပ်တူဥပဒေပြုအာဏာအညွှန်း

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်နှင့် ပြည်နယ်လွှတ်တော်အသီးသီးတို့သည် အောက်စာရင်းပါကိစ္စများတွင် မိမိတို့လွှတ်တော်တခုချင်းစီအလိုက် ထပ်တူဥပဒေပြုပိုင်ခွင့် အာဏာရှိစေရမည်။

(၁) ဖက်ဒရယ်ပြည်ထောင်စုအတွင်း ရောင်းဝယ်ခွန်၊ စီးပွားရေးလုပ်ငန်းခွန်၊ အမြတ်ခွန်၊ ယစ်မျိုးခွန်၊ ဆိပ်ကမ်းခွန်အပါအဝင် အကောက်အခွန်ဆိုင်ရာကိစ္စရပ်များ

(၂) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး

(၃) မူးယစ်ထုံထိုင်း ဘေးဖြစ်စေတတ်သော ဆေးဝါးများ

(၄) ဖွားသေစာရင်း မှတ်ပုံတင်ခြင်း

(၅) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်တခုအတွင်း၌ ကျရောက်သည့် ဖက်ဒရယ်ပြည်ထောင်စု၏ စွမ်းအင်စီမံကိန်းလုပ်ငန်းများ၊ ဖွံ့ဖြိုးရေးစီမံကိန်းကြီးများ

(၆) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်တခုအတွင်း မြေပေါ်မြေအောက်သယံဇာတ တူးဖော်ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း

(၇) နိုင်ငံခြားအစိုးရများနှင့် ကုမ္ပဏီများမှ ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များသို့ ရင်းနှီးမြှုပ်နှံခြင်းဆိုင်ရာကိစ္စရပ်များ

(၈) ဒေသဆိုင်ရာ ရေဒီယိုနှင့် ရုပ်မြင်သံကြားလုပ်ငန်းများ

(၉) ဘဏ်နှင့် အာမခံလုပ်ငန်းများ

(၁၀) နေအိမ်၊ ဥပစာ၊ မြေယာပိုင်ဆိုင်မှု လွှဲပြောင်းခြင်းဆိုင်ရာကိစ္စများ

(၁၁) တက္ကသိုလ်နှင့် အသက်မွေးဝမ်းကြောင်း ပညာရေးဆိုင်ရာ ပြဋ္ဌာန်းချက်များ

(၁၂) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင်ပြည်နယ် တနယ်မှတနယ်သို့ ဖြတ်သန်းစီးဆင်းလျက်ရှိသော မြစ်များနှင့် ရေကြောင်းဆိုင်ရာ စည်းမျည်းသတ်မှတ်ချက်များ၊ ပြည်တွင်း ပင်လယ်ရေကြောင်းနှင့် ကမ်းရိုးတန်း သယ်ယူပို့ဆောင်ရေးဆိုင်ရာ စည်းမျည်းသတ်မှတ်ချက်များ

(၁၃) ဒုက္ခသည်ရေးရာနှင့် နိုင်ငံရေးခိုလှုံခွင့်

(၁၄) ရာဇဝတ်မှု ဥပဒေနှင့် တရားမကျင့်ထုံး ဥပဒေများ

(၁၅) ပြည်သူ့ဝန်ထမ်း လေ့ကျင့်ရေးသင်တန်းများ

(၁၆) အလုပ်သမားနှင့် လယ်သမားဆိုင်ရာ ဥပဒေပြဋ္ဌာန်းချက်များ

## ပုဒ်မ (၁၀၅) ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ တရားရုံး၏အဆုံးအဖြတ်ကို ခံယူခြင်း

ထပ်တူဥပဒေပြုအာဏာအညွှန်းရှိ ပြဋ္ဌာန်းချက်တရပ်ရပ်နှင့် စပ်လျဉ်း၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်ကဖြစ်စေ၊ ပြည်နယ်လွှတ်တော်တခုခုကဖြစ်စေ ဥပဒေပြုခဲ့သော် အငြင်းပွားဖွယ်ရာများ ဖြစ်ပွားလာပါက ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

## ပုဒ်မ (၁၀၆) ထပ်တူဥပဒေပြုအာဏာအညွှန်းအရ ပြည်ထောင်စုက ဥပဒေပြုခြင်း

ထပ်တူဥပဒေပြုအာဏာအညွှန်းရှိ ပြဋ္ဌာန်းချက်တရပ်ရပ်နှင့် စပ်လျဉ်း၍ ပြည်နယ်တခုခုက ဥပဒေပြုခဲ့သော် အခြားပြည်နယ်တခုခု (သို့မဟုတ်) အခြားပြည်နယ်သားတို့၏ အကျိုးစီးပွားကို ထိခိုက်နိုင်ခြင်း (သို့မဟုတ်) ဖက်ဒရယ်ပြည်ထောင်စုတဝှမ်းလုံး၏ အကျိုးစီးပွားကို ထိခိုက်စေနိုင်ခြင်းဖြစ်လျှင် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေပြုရမည်။

## ပုဒ်မ (၁၀၇) ပူးတွဲသဘောတူညီမှုရယူခြင်း

သဘာဝသယံဇာတ တူးဖော်ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံခြင်း၊ စွမ်းအင်ထုတ်လုပ်ခြင်းတို့အတွက် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေပြုမည်ဆိုလျှင် သက်ဆိုင်သော ပြည်နယ်လွှတ်တော်များကသော်လည်းကောင်း၊ ပြည်နယ်လွှတ်တော်က ဥပဒေပြုမည်ဆိုလျှင် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်ကသော်လည်းကောင်း သဘောတူညီပြီးမှ ထိုဥပဒေအာဏာတည်စေရမည်။

## ပုဒ်မ (၁၀၈) ပြည်နယ်များ၏ ဥပဒေပြုအာဏာ

ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ ဖယ်ဒရယ်ပြည်ထောင်စုဥပဒေပြုအာဏာအညွှန်းများတွင် အတိလင်းသတ်မှတ်ပြဋ္ဌာန်းထားခြင်း မရှိသောကိစ္စများနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာပြည်နယ်လွှတ်တော်များ၌ ဥပဒေပြုပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၀၉) ဖက်ဒရယ်ပြည်ထောင်စုဥပဒေကလွှမ်းမိုးခြင်း

ဖက်ဒရယ်ပြည်ထောင်စုဥပဒေနှင့် ပြည်နယ်ဥပဒေတို့ ဆန့်ကျင်ကွဲလွဲမှု ဖြစ်ပေါ်လာပါက ဖက်ဒရယ်ပြည်ထောင်စုဥပဒေက ပြည်နယ်ဥပဒေအပေါ် လွှမ်းမိုးစေရမည်။

# အခန်း (၆)
# ဖက်ဒရယ်ပြည်ထောင်စုသမ္မတ
# Federal President

## ပုဒ်မ (၁၁၀)  နိုင်ငံတော်ဦးသျှောင်

ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုသမ္မတနိုင်ငံတော်၏ ဦးသျှောင်ဖြစ်သည်။

## ပုဒ်မ (၁၁၁)  အရည်အချင်း

(က) ဖက်ဒရယ်ပြည်ထောင်စု သမ္မတ (သို့မဟုတ်) ဒုတိယသမ္မတ အဖြစ်ရွေးချယ်တင်မြှောက်ခံမည့်သူသည် အောက်ပါ အရည်အချင်းများနှင့် ပြည့်စုံရမည်။
- (၁) ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားဖြစ်ရမည်။
- (၂) ဖက်ဒရယ်ပြည်ထောင်စုနိုင်ငံသား မိဘနှစ်ပါးမှ မွေးဖွားသူ ဖြစ်ရမည်။
- (၃) ဖယ်ဒရယ်ပြည်ထောင်စုအတွင်း (၁၀) နှစ်ထက်မနည်း ဆက်တိုက်နေထိုင်ခဲ့သူ ဖြစ်ရမည်။
- (၄) သမ္မတလောင်းအဖြစ် အမည်စာရင်း တင်သွင်းသောနေ့တွင် အသက် (၃၅) နှစ်ပြည့်ပြီး ဖြစ်ရမည်။
- (၅) နိုင်ငံနှစ်ခု (သို့မဟုတ်) နိုင်ငံနှစ်ခုထက်ပိုသော နိုင်ငံသားမဖြစ်စေရ။

(ခ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတနှင့် ဒုတိယသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စု (သို့မဟုတ်) ပြည်နယ်အစိုးရတရပ်ရပ်၏ အဖွဲ့ဝင်သော်လည်းကောင်း၊ လွှတ်တော်တရပ်ရပ်၏ ကိုယ်စားလှယ်သော်လည်းကောင်း မဖြစ်စေရ။ လွှတ်တော်ကိုယ်စားလှယ်တဦးဦး (သို့မဟုတ်) ပြည်နယ်အစိုးရအဖွဲ့ဝင်တဦးဦးသည် သမ္မတအဖြစ် ရွေးချယ်တင်မြှောက်ခြင်းခံရပါက သက်ဆိုင်ရာလွှတ်တော်ကိုယ်စားလှယ် (သို့မဟုတ်) အစိုးရ အဖွဲ့ဝင်အဖြစ်မှ နုတ်ထွက်ပြီးဖြစ်စေရမည်။

## ပုဒ်မ (၁၁၂)  ရွေးချယ်ပုံစနစ်

(က) ပြည်နယ်လွှတ်တော်အသီးသီးမှ တပြည်နယ်လျှင် တဦးကျစီ ပေးပို့သော သမ္မတလောင်းများအနက်မှ သမ္မတတဦးနှင့် ဒုတိယသမ္မတတဦးကို အမျိုးသားလွှတ်တော်မှ ရွေးချယ်တင်မြှောက်ရမည်။

(ခ) ပြည်နယ်တခုမှ ဖက်ဒရယ်ပြည်ထောင်စုသမ္မတအဖြစ် ရွေးချယ်ခံခဲ့ရပါက နောက်ထပ်သက်တမ်း သုံးကြိမ်အတွင်း အဆိုပါပြည်နယ်မှ ထပ်မံရွေးချယ်ခံခြင်း မရှိစေရ။ ဤသက်တမ်းရေတွက်မှုတွင် ဒုတိယသမ္မတ သက်တမ်းကာလ အကြုံး မဝင်စေရ။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတအသစ်ကို ရွေးချယ်တင်မြှောက်ရန်အတွက် ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် မိမိ၏ရာထူးသက်တမ်း မကုန်ဆုံးမီ အနည်းဆုံး (၆) လကြိုတင်၍ အမျိုးသားလွှတ်တော်အား ဆင့်ခေါ်ရန် အကြောင်းကြားရမည်။

(ဃ) သမ္မတရွေးချယ်ခြင်းဆိုင်ရာ ဥပဒေကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၁၃) သက်တမ်း

ဖက်ဒရယ်ပြည်ထောင်စုသမ္မတ၏ သက်တမ်းသည် တာဝန်ထမ်းဆောင်သည့် နေ့မှ စ၍ (၅) နှစ် ဖြစ်စေရမည်။

## ပုဒ်မ (၁၁၄) တာဝန်နှင့်လုပ်ပိုင်ခွင့်များ

(က) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စု တပ်မတော် အပါအဝင် ဖက်ဒရယ်ပြည်ထောင်စု ကာကွယ်ရေးနှင့် လုံခြုံရေးတပ်ဖွဲ့များ၏ စစ်သေနာပတိချုပ်တာဝန်ကို ထမ်းဆောင်ရမည်။ သို့ရာတွင် ဤအခွင့် အာဏာကို ဖက်ဒရယ်ပြည်ထောင်စု၏ အရေးပေါ်အခြေအနေကာလ၌သာ အပြည့်အဝ ကျင့်သုံးနိုင်ခွင့်ရှိသည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုအစိုးရနှင့် ညှိနှိုင်း ၍ သဘောတူညီချက်ကိုရယူပြီး ပြည်ပနိုင်ငံတခုခုကို စစ်ကြေညာခြင်း၊ စစ်ရပ်စဲခြင်းများ ပြုလုပ်ပိုင်ခွင့်ရှိသည်။

(ဂ) အထက်အပိုဒ် (ခ) ပါ ဆောင်ရွက်ချက်နှင့်ပတ်သက်၍ ဖက်ဒရယ်ပြည် ထောင်စုသမ္မတသည် အနီးကပ်ဆုံး ပုံမှန်ဖက်ဒရယ်ပြည်ထောင်စု လွှတ်တော် အစည်းအဝေး (သို့တည်းမဟုတ်) အရေးပေါ် ဖက်ဒရယ်ပြည်ထောင်စု လွှတ်တော်အစည်းအဝေးကို ခေါ်ယူ၍ အတည်ပြုချက် ရယူရမည်။

(ဃ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ပြည်သူ့လွှတ်တော်က ဝန်ကြီးချုပ်အဖြစ် အမည်စာရင်းတင်သွင်းသော ပုဂ္ဂိုလ်အား ဖက်ဒရယ်ပြည်ထောင်စုအစိုးရ၏ ဝန်ကြီးချုပ်အဖြစ် ခန့်ထားရမည်။

(င) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စု ဝန်ကြီးချုပ်က အမည်စာရင်းတင်သွင်းသော ပုဂ္ဂိုလ်တို့ကို ဖက်ဒရယ်ပြည်ထောင်စုအစိုးရ အဖွဲ့ဝင်ဝန်ကြီးများအဖြစ် ခန့်ထားရမည်။

(စ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ရရှိပြီးသူအား ဖက်ဒရယ်ပြည်ထောင်စု၏ ရှေ့နေချုပ်အဖြစ် ခန့်ထားရမည်။

(ဆ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ရရှိပြီးသူအား ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးများနှင့် တရားလွှတ်တော်ချုပ် တရားသူကြီးချုပ်အဖြစ်ခန့် ထားရမည်။

(ဇ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ရရှိပြီးသူအား ဖက်ဒရယ်ပြည်ထောင်စု၏ စာရင်းစစ်ချုပ်အဖြစ် ခန့်ထားရမည်။

(ဈ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ရရှိပြီးသူအား ဖက်ဒရယ်ပြည်ထောင်စုကော်မရှင် အသီးသီး တို့၏ အဖွဲ့ဝင်များအဖြစ် ခန့်ထားရမည်။

(ည) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဝန်ကြီးချုပ်၏ အကြံပေးချက်အရ ဖက်ဒရယ်ပြည်ထောင်စုအစိုးရဝန်ကြီး တဦးဦး၏ ရာထူးမှနုတ်ထွက်စာကို လက်ခံရမည်။ (သို့တည်းမဟုတ်) ရာထူးမှ ရပ်စဲစေရမည်။

(ဋ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်၏ အကြံပေးချက်အရ ပြည်သူ့လွှတ်တော် ကို ဆင့်ခေါ်ရမည်။ (သို့တည်းမဟုတ်) ရပ်သိမ်းရမည်။ (သို့တည်းမဟုတ်) ဖျက်သိမ်းရမည်။ ဤသို့ ဆောင်ရွက်ရာတွင် ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ (၉၁) ပါ ပြဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရ မည်။

(ဌ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က အတည်ပြုသော (သို့တည်းမဟုတ်) အတည်ပြုပြီးဖြစ်သည်ဟု မှတ်ယူရမည့် ဥပဒေကြမ်းအား ဖက်ဒရယ်ပြည် ထောင်စုဥပဒေ ဖြစ်မြောက်လာရေးအတွက် ဖက်ဒရယ်ပြည်ထောင်စုသမ္မတ က လက်မှတ်ရေးထိုးပြီး ထုတ်ပြန်ကြေညာပေးရမည်။

(ဍ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုနှင့် စပ်လျဉ်း၍ ဖြစ်စေ ပြည်သူလူထုနှင့် သက်ဆိုင်သည့် အရေးကြီးသောကိစ္စများနှင့် စပ်လျဉ်း

၍ဖြစ်စေ အမှာလွှာဖြင့်သော်လည်းကောင်း မိန့်ခွန်းဖြင့်သော်လည်းကောင်း ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ အကြောင်းကြားနိုင်သည်။

(ဎ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် အခါအားလျော်စွာ ဖက်ဒရယ်ပြည်ထောင်စုတဝှမ်းလုံးသို့ မိန့်ခွန်းမြွက်ကြား နိုင်သည်။

(ဏ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေတွင် အတည့်အလင်းပြဋ္ဌာန်းချက်များမှလွဲ၍ အခြားကိစ္စများတွင် ဖက်ဒရယ်ပြည်ထောင်စုအစိုးရနှင့် ညှိနှိုင်း၍ဆောင်ရွက်နိုင်သည်။ သို့ရာတွင် ဖွဲ့စည်းပုံအခြေခံဥပဒေနှင့် မဆန့်ကျင်စေရ။

(တ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် အရေးအပေါ်အခြေအနေ ကြေငြာခြင်းနှင့် ရုပ်သိမ်းခြင်းတို့ကို ထုတ်ပြန်ကြေငြာပေးရမည်။

(ထ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် လွတ်ငြိမ်းချမ်းသာခွင့် ပေးပိုင်ခွင့်ရှိသည်။

## ပုဒ်မ (၁၁၅) ဖက်ဒရယ်ပြည်ထောင်စု ဒုတိယသမ္မတ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

ဖက်ဒရယ်ပြည်ထောင်စု သမ္မတက လုပ်ငန်းတာဝန်များကို မိမိအလိုအလျောက် လွှဲအပ်သောအခါတွင်ဖြစ်စေ၊ တာဝန်ကို ဆက်လက်ထမ်းဆောင်နိုင်စွမ်း မရှိတော့လျှင်ဖြစ်စေ၊ ရာထူးမှ ဖယ်ရှားခံရလျှင်ဖြစ်စေ၊ ကွယ်လွန်လျှင်ဖြစ်စေ ဖက်ဒရယ်ပြည်ထောင်စု ဒုတိယသမ္မတသည် သမ္မတ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်ဝတ္တရားများကို ထမ်းဆောင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၁၆) ဖက်ဒရယ်ပြည်ထောင်စုသမ္မတနှင့် ဒုတိယသမ္မတ၏ ခံစားပိုင်ခွင့်များ

ဖက်ဒရယ်ပြည်ထောင်စုသမ္မတနှင့် ဒုတိယသမ္မတတို့သည် သီးသန့်သတ်မှတ်ထားသည့် အဆောင်အယောင်နှင့်နေအိမ်တို့ကို ရရှိစေရမည်။ ထို့အပြင် ဥပဒေဖြင့် သတ်မှတ်ထားသော လစာနှင့်စရိတ်များကို ခံစားခွင့် ရှိစေရမည်။

## ပုဒ်မ (၁၁၇) ဖက်ဒရယ်ပြည်ထောင်စုသမ္မတကိုအရေးယူခြင်း

အောက်ဖော်ပြပါ အကြောင်းအရာတခုခုအတွက် ဖက်ဒရယ်ပြည်ထောင်စုသမ္မတကို စွပ်စွဲမှု ပြုလုပ်နိုင်သည်။

(က) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် —

(၁) ဖက်ဒရယ်ပြည်ထောင်စု၏ ကျေးဇူးသစ္စာကို ဖောက်ဖျက်ခြင်း

(၂) ဤဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို ဖောက်ဖျက်ကျူးလွန်ခြင်း

(၃) အကျင့်သိက္ခာလွှန်ကဲစွာပျက်ပြားခြင်း

(ခ) အထက်အပိုဒ် (က) အရ သမ္မတအပေါ် စွပ်စွဲချက်အား လွှတ်တော်တရပ်ရပ်တွင် တင်သွင်းနိုင်သည်။ လွှတ်တော်တရပ်ရပ်၏ ကိုယ်စားလှယ်အနည်းဆုံး ထက်ဝက်ကျော်မှ အတည်ပြုထောက်ခံချက်အရသာလျှင် စွပ်စွဲချက်ကို ဆက်လက်စုံစမ်းစစ်ဆေးနိုင်သည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်ဆိုင်ရာ လွှတ်တော်တရပ်၏ အတည်ပြုပြီးသော ထိုစွပ်စွဲချက်ကို အခြားလွှတ်တော်တရပ်က စုံစမ်းစစ်ဆေးရမည်။

(ဃ) သက်ဆိုင်ရာ လွှတ်တော်တရပ်က စုံစမ်းစစ်ဆေးပြီးနောက် ဖက်ဒရယ်ပြည်ထောင်စုသမ္မတအား ရာထူးတွင် ဆက်လက်၍ မထမ်းရွက်စေသင့်သော ပြစ်မှုဖြစ်သည်ဟူ၍ အဆိုပါလွှတ်တော် ကိုယ်စားလှယ် စုစုပေါင်း၏ သုံးပုံနှစ်ပုံက အတည်ပြုခဲ့သော် ထိုအဆိုကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ ဆက်လက် တင်သွင်းရမည်။

(င) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် အထက်အပိုဒ် (ဃ) အရ တင်သွင်းလာသည့်အဆိုအား ဖက်ဒရယ်ပြည်ထောင်စု လွှတ်တော်ကိုယ်စားလှယ် စုစုပေါင်း၏ ထက်ဝက်ကျော်ဆန္ဒမဲဖြင့် အတည်ပြုပါက ဖက်ဒရယ်ပြည်ထောင်စုသမ္မတအား တာဝန်မှ ရပ်စဲစေရမည်။

(စ) စွပ်စွဲချက်ကို စုံစမ်းစစ်ဆေးသောအခါတွင် ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် မိမိကိုယ်တိုင်သော်လည်းကောင်း ကိုယ်စားလှယ်ဖြင့်သော်လည်းကောင်း ခုခံချေပခွင့် ရှိရမည်။

(ဆ) ဤပုဒ်မပါ ပြဋ္ဌာန်းချက်များသည် ဒုတိယသမ္မတနှင့်လည်း သက်ဆိုင်စေရမည်။

## ပုဒ်မ (၁၁၈) အစားထိုးရွေးချယ်တင်မြှောက်ခြင်း

ဖက်ဒရယ်ပြည်ထောင်စုသမ္မတ ကွယ်လွန်လျှင်ဖြစ်စေ၊ ၎င်း၏တာဝန်ကို ဆက်လက်ထမ်းဆောင်နိုင်စွမ်း မရှိတော့လျှင်ဖြစ်စေ၊ ပုဒ်မ (၁၁၆) အရ ရာထူးမှ ဖယ်ရှားခံရလျှင်ဖြစ်စေ၊ လစ်လပ်သွားသော နေရာအတွက် အောက်ပါတိုင်း အစားထိုးရွေးချယ်တင်မြှောက်ရမည်။

(က) ဖက်ဒရယ်ပြည်ထောင်စုသမ္မတ၏ မူလသက်တမ်း ကုန်ဆုံးသည့်အထိ ဒုတိယသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စု သမ္မတတာဝန်ကို ဆက်လက်ထမ်းဆောင်ရမည်။ ဒုတိယသမ္မတအနေဖြင့် ဤကဲ့သို့ သမ္မတတာဝန်ကို အစားထိုးထမ်းဆောင်ခြင်းသည် ပုဒ်မ (၁၁၁) ပုဒ်မခွဲ (ခ) ပါ ပြဋ္ဌာန်းချက်နှင့် အကြုံးမဝင်စေရ။

(ခ) လစ်လပ်သွားသော ဒုတိယသမ္မတနေရာတွင် အမျိုးသားလွှတ်တော်ဥက္ကဋ္ဌသည် ဒုတိယသမ္မတအဖြစ် တာဝန်ယူရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတ၏ ပုံမှန်သက်တမ်းကာလအတွင်း သမ္မတနေရာလစ်လပ်မှု ထပ်မံဖြစ်ပွားပါက ရွေးကောက်ပွဲအသစ်ကို ပုဒ်မ (၁၁၂) ပြဋ္ဌာန်းချက်များအတိုင်း ပြုလုပ်ရမည်။

## ပုဒ်မ (၁၁၉) ကင်းလွတ်ခွင့်

သမ္မတနှင့် ဒုတိယသမ္မတ တာဝန်ထမ်းဆောင်နေစဉ် ကာလအတွင်း ဖက်ဒရယ်ပြည်ထောင်စုသမ္မတနှင့် ဒုတိယသမ္မတ၏ တာဝန်အရ ပြုလုပ်မှုတခုခု (သို့မဟုတ်) ပျက်ကွက်မှု တခုခုအပေါ် ရာဇဝတ်ကြောင်းအရဖြစ်စေ၊ တရားမကြောင်းအရ ဖြစ်စေ မည်သူတဦးတယောက်ကမျှ ဖက်ဒရယ်ပြည်ထောင်စုသမ္မတနှင့် ဒုတိယသမ္မတအပေါ် တရားစွဲဆိုခြင်း မပြုရ။

## ပုဒ်မ (၁၂၀) တားမြစ်ခြင်း

ဖက်ဒရယ်ပြည်ထောင်စုသမ္မတနှင့် ဒုတိယသမ္မတတို့သည် လစာပေးသော အခြားလုပ်ငန်း တခုခုတွင်သော်လည်းကောင်း အမြတ်အစွန်းကို အခြေသည့် လုပ်ငန်းတခုခု၏ စီမံခန့်ခွဲရေး အဖွဲ့တွင်သော်လည်းကောင်း ပါဝင်လုပ်ကိုင်ခြင်း မပြုရ။

# အခန်း (၇)
# ဖက်ဒရယ်ပြည်ထောင်စုအစိုးရ
# Federal Government

## ပုဒ်မ (၁၂၁) ဖွဲ့စည်းခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စု ဝန်ကြီးချုပ်ဦးဆောင်သော ဝန်ကြီးအဖွဲ့ဖြင့် ဖက်ဒရယ်ပြည်ထောင်စုအစိုးရကို ဖွဲ့စည်းရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုအစိုးရ ဝန်ကြီးအဖွဲ့ကို ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုအစိုးရသည် ပြည်သူ့လွှတ်တော်အား အဖွဲ့လိုက် စုပေါင်းတာဝန်ခံရမည်။

(ဃ) ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်သည် ဖက်ဒရယ်ပြည်ထောင်စုအစိုးရကို တာဝန်ခံရမည်။

## ပုဒ်မ (၁၂၂) သက်တမ်း

ဖက်ဒရယ်ပြည်ထောင်စုအစိုးရ သက်တမ်းသည် ပြည်သူ့လွှတ်တော်၏ သက်တမ်းနှင့် အညီဖြစ်သည်။

## ပုဒ်မ (၁၂၃) ဝန်ကြီးချုပ်

(က) ပြည်သူ့လွှတ်တော်မှ ရွေးကောက်တင်မြှောက်၍ အမည်စာရင်းတင်သွင်းသောပုဂ္ဂိုလ်အား ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ဝန်ကြီးချုပ်အဖြစ် ခန့်အပ်ရမည်။

(ခ) ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်အားလုံး၏ ထက်ဝက်ကျော် ထောက်ခံမဲရရှိသူ ဖြစ်ရမည်။

(ဂ) (၁၄) ရက်အတွင်း မည်သူမှထက်ဝက်ကျော်မဲဖြင့် ရွေးချယ်ခြင်းမခံရလျှင် သာမန်မဲအရေအတွက် အများဆုံးရရှိသူ ဖြစ်ရမည်။

(ဃ) ဝန်ကြီးချုပ်က အဆိုပြုတင်ပြသော ဒုတိယဝန်ကြီးချုပ်နှင့် ဝန်ကြီးများကို ပြည်ထောင်စုသမ္မတက ခန့်အပ်ရမည်။ (သို့မဟုတ်) ရာထူးမှ ဖယ်ရှားရမည်။

(င) ဝန်ကြီးချုပ်သည် ဖက်ဒရယ်ပြည်ထောင်စုသမ္မတက တောင်းဆိုလျှင် ၎င်းတို့အား ဆက်ခံမည့်သူ ရွေးချယ်ပြီးသည်အထိ ဆက်လက်တာဝန်ထမ်းဆောင်ရမည်။

## ပုဒ်မ (၁၂၄) ဒုတိယဝန်ကြီးချုပ်

ပြည်ထောင်စုဝန်ကြီးချုပ်က ၎င်း၏တာဝန်များကို ထမ်းဆောင်ရန် မစွမ်းဆောင်နိုင်လျှင်ဖြစ်စေ၊ ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်၏ ခွင့်ပြုချက်ဖြင့်ဖြစ်စေ၊ ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်ကိုယ်စား ဒုတိယဝန်ကြီးချုပ်သည် တာဝန်ယူဆောင်ရွက်ခွင့်ရှိသည်။

## ပုဒ်မ (၁၂၅) အစားထိုးရွေးချယ်ခန့်အပ်ခြင်း

ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်ရာထူး လစ်လပ်ခဲ့လျှင် ဤဖက်ဒရယ်ပြည်ထောင်စုဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ (၁၂၃) နှင့်အညီ ပြန်လည်အစားထိုး ရွေးချယ်ခန့်အပ်ခြင်း ပြုရမည်။

## ပုဒ်မ (၁၂၆) အယုံအကြည်မရှိအဆို

(က) ဖက်ဒရယ်ပြည်ထောင်စုအစိုးရ ဖွဲ့စည်းတာဝန်ယူပြီးနောက် (၁၈) လအတွင်း အစိုးရတဖွဲ့လုံး (သို့တည်းမဟုတ်) အစိုးရအဖွဲ့ဝင်တဦးချင်းအပေါ် အယုံအကြည်မရှိ အဆိုတင်သွင်းပိုင်ခွင့် မရှိစေရ၊

(ခ) အယုံမကြည်မရှိအဆိုကို ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်အားလုံး၏ ထက်ဝက်ကျော် ဆန္ဒမဲဖြင့် အတည်ပြုလျှင် အစိုးရတဖွဲ့လုံး (သို့တည်းမဟုတ်) အဆိုတင်သွင်းခြင်းခံရသူ အစိုးရအဖွဲ့ဝင်သည် တာဝန်မှ နုတ်ထွက်ပေးရမည်။

(ဂ) အစိုးရတဖွဲ့လုံး နုတ်ထွက်ရပါက ဤဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ (၉၁) အရ ရွေးချယ်ခံရသူအား ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်အဖြစ် ခန့်အပ်ရမည်။

## ပုဒ်မ (၁၂၇) နုတ်ထွက်ခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်သည် မည်သည့်အခါ၌မဆို မိမိ၏ နုတ်ထွက်လွှာကို ဖက်ဒရယ်ပြည်ထောင်စုသမ္မတထံသို့ ပေးအပ်ခြင်းဖြင့် ရာထူးမှနုတ်ထွက်နိုင်သည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်သည် မည်သည့်အခါ၌မဆို ရာထူးမှနုတ်ထွက်လျှင် ဝန်ကြီးများသည်လည်း မိမိတို့ရာထူးများမှ နုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတထံသို့ တင်သွင်းစေရန် မိမိ၏ နုတ်ထွက်လွှာကို ဝန်ကြီးချုပ်လက်သို့ ပေးအပ်ခြင်းဖြင့် မည်သည့်အစိုးရအဖွဲ့ဝင် ဝန်ကြီးမဆို ရာထူးမှ နုတ်ထွက်နိုင်သည်။

## ပုဒ်မ (၁၂၈) အစိုးရအဖွဲ့၏ တာဝန်

(က) ဖက်ဒရယ်ပြည်ထောင်စုအစိုးရသည် ဖက်ဒရယ်ပြည်ထောင်စု၏ နှစ်စဉ်ရသုံး ခန့်မှန်းခြေ ငွေစာရင်းကိုပြုစု၍ ပြည်သူ့လွှတ်တော်သို့ တင်ပြရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုအား ပြည်ပနိုင်ငံတခုခုမှ ထိပါးတိုက်ခိုက်လာလျှင် (သို့တည်းမဟုတ်) ထိပါးတိုက်ခိုက်ခံရရန် အခြေအနေရှိလျှင် ဖက်ဒရယ်ပြည် ထောင်စုအစိုးရသည် ဖက်ဒရယ်ပြည်ထောင်စုကို ကာကွယ်စောင့်ရှောက်ရန် သမ္မတ၏ ခွင့်ပြုချက်ဖြင့် အရေးယူဆောင်ရွက်နိုင်သည်။ ထိုကဲ့သို့ ဆောင်ရွက် ချက်ကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် ကျင်းပနေဆဲကာလ မဟုတ်လျှင်၊ အနီးကပ်ဆုံး ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်။

(ဂ) နိုင်ငံတကာ ငြိမ်းချမ်းမှု ထိမ်းသိမ်းရေးလုပ်ငန်းစဉ်တွင် ဖက်ဒရယ်ပြည်ထောင်စု တပ်မတော်မှ ပါဝင်တာဝန်ယူမည့် ကိစ္စရပ်များ၊ ဖက်ဒရယ်ပြည်ထောင်စု တပ်မတော်၏ စစ်ရေးစွမ်းရည်များ မြှင့်မားလာစေရေးအတွက် နိုင်ငံတကာ တပ်ဖွဲ့များနှင့် ပူးတွဲစစ်ရေးလေ့ကျင့်မှု ပြုလုပ်ရေးကိစ္စရပ်များအတွက် ဖက်ဒရယ် ပြည်ထောင်စုအစိုးရသည် သမ္မတနှင့်ညှိနှိုင်းပြီး အပြည်ပြည်ဆိုင်ရာ သဘောတူ ညီချက်များ (သို့မဟုတ်) နှစ်နိုင်ငံအကြား ချုပ်ဆိုထားသည့် စာချုပ်များအရ ဆောင်ရွက်ပိုင်ခွင့်ရှိသည်။

(ဃ) ဖက်ဒရယ်ပြည်ထောင်စုအစိုးရက သဘောတူလက်မှတ်ရေးထိုးသော နိုင်ငံ တကာဆိုင်ရာ သဘောတူညီချက်တိုင်းကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် ၌ တင်ပြရမည်။

## ပုဒ်မ (၁၂၉) ဝန်ကြီးဌာနများ

ဖက်ဒရယ်ပြည်ထောင်စုအစိုးရသည် အောက်ပါ ဝန်ကြီးဌာနများအပါအဝင် (၃၀) ထက်မပိုသော ဝန်ကြီးဌာနများကို လိုအပ်သလို ဖွဲ့စည်းနိုင်သည်။

(၁) နိုင်ငံခြားရေးဝန်ကြီးဌာန
(၂) ကာကွယ်ရေးဝန်ကြီးဌာန
(၃) ဘဏ္ဍာရေးနှင့် စီမံကိန်းဝန်ကြီးဌာန
(၄) ပြည်ထဲရေးဝန်ကြီးဌာန

(၅) ကျန်းမာရေးဝန်ကြီးဌာန
(၆) ပညာရေးဝန်ကြီးဌာန
(၇) ဆက်သွယ်ရေးဝန်ကြီးဌာန
(၈) ပြန်ကြားရေး ဝန်ကြီးဌာန
(၉) လယ်ယာနှင့် သစ်တောဝန်ကြီးဌာန
(၁၀) စွမ်းအင်ဝန်ကြီးဌာန
(၁၁) အလုပ်သမားဝန်ကြီးဌာန
(၁၂) သယ်ယူပို့ဆောင်ရေးဝန်ကြီးဌာန
(၁၃) စီးပွားရေးနှင့် ကုန်သွယ်ရေးဝန်ကြီးဌာန
(၁၄) လူမှုဝန်ထမ်းဝန်ကြီးဌာန
(၁၅) တရားရေးဝန်ကြီးဌာန
(၁၆) သဘာဝပတ်ဝန်းကျင်ထိမ်းသိမ်းရေး ဝန်ကြီးဌာန
(၁၇) ကျား–မ တန်းတူညီမျှရေး ဝန်ကြီးဌာန
(၁၈) သိပ္ပံနှင့်နည်းပညာ ဝန်ကြီးဌာန
(၁၉) သတ္တုတွင်းဝန်ကြီးဌာန

## ပုဒ်မ (၁၃၀) ဖက်ဒရယ်ပြည်ထောင်စုရှေ့နေချုပ်

(က) ဖက်ဒရယ်ပြည်ထောင်စု အစိုးရအဖွဲ့ကို ဥပဒေအကြံပေးရန်နှင့် ဖက်ဒရယ်ပြည်ထောင်စုအစိုးရကို ကိုယ်စားပြု၍ ဥပဒေကိစ္စများကိုဆောင်ရွက်ရန်အတွက် ဖက်ဒရယ်ပြည်ထောင်စု ရှေ့နေချုပ်တဦးကို ဝန်ကြီးချုပ်က အမည်တင်သွင်းပြီး၊ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ သဘောတူညီချက်ဖြင့် ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ခန့်အပ်ရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုရှေ့နေချုပ်သည် လွှတ်တော်တရပ်ရပ်၏ ကိုယ်စားလှယ် သော်လည်းကောင်း၊ (သို့မဟုတ်) ပြည်နယ်အစိုးရအဖွဲ့ တရပ်ရပ်၏ အဖွဲ့ဝင်သော်လည်းကောင်း မဖြစ်စေရ။

(ဂ) ဖက်ဒရယ်ပြည်ထောင်စု ရှေ့နေချုပ်သည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော် အစည်းအဝေးများတွင် တက်ရောက်ပိုင်ခွင့်ရှိပြီး မေးမြန်းမှုများကို အစိုးရ ကိုယ်စား ရှင်းလင်းဖြေရှင်းခွင့် ရှိသည်။

## ပုဒ်မ (၁၃၁) အခြားတာဝန်ထမ်းဆောင်ခွင့်မရှိခြင်း

ဖက်ဒရယ်ပြည်ထောင်စုအစိုးရအဖွဲ့ဝင်များနှင့် ဖက်ဒရယ်ပြည်ထောင်စုရှေ့နေချုပ်တို့သည် ၎င်းတို့တာဝန်ယူဆောင်ရွက်သည့် တာဝန်များမှတပါး —

(က) လစာပေးသော အခြားလုပ်ငန်းဌာနများ၌ တာဝန်ယူခြင်းသော်လည်းကောင်း၊

(ခ) အမြတ်အစွန်းကို အခြေခံသည့် လုပ်ငန်းတခုခု၏ စီမံခန့်ခွဲရေးအဖွဲ့ဝင်အဖြစ် သော်လည်းကောင်း ပါဝင်လုပ်ကိုင်ခြင်း မပြုရ။

# အခန်း (၈)
# ဖက်ဒရယ်ပြည်ထောင်စုတရားစီရင်ရေး
# Federal Judiciary

## ပုဒ်မ (၁၃၂) တရားစီရင်ပိုင်ခွင့်အာဏာ

တရားစီရင်မှုအာဏာသည် တရားရုံးများတွင်တည်ရှိရမည်။ တရားစီရင်ရေးအာဏာကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ဥပဒေနှင့်အညီ အဆင့်ဆင့်တည်ထောင်ထားသော တရားရုံးများတွင် ကျင့်သုံးပိုင်ခွင့်ရှိပြီး လွတ်လပ်၍ တရားမျှတသော တရားစီရင်ရေးစနစ် ဖြစ်ရမည်။

## ပုဒ်မ (၁၃၃) လွတ်လပ်စွာတရားစီရင်ပိုင်ခွင့်

တရားသူကြီးများသည် လွတ်လပ်စွာ တရားစီရင်ပိုင်ခွင့်ရှိပြီး တရားဥပဒေကိုသာ တာဝန်ခံရမည်။

## ပုဒ်မ (၁၃၄) ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာတရားရုံး

(က) ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်ပတ်သက်သော အငြင်းပွားမှုများကို ဖြေရှင်းဆောင်ရွက်ရန်အတွက် ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ တရားရားရုံးကို ဖွဲ့စည်းထူထောင်ရမည်။

(ခ) ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာတရားရုံးကို ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီး (၉) ဦးအပါအဝင် အမျိုးသားလွှတ်တော်မှ ရွေးချယ်ခန့်အပ်သော ပုဂ္ဂိုလ်နှစ်ဦးနှင့် ပြည်သူ့လွှတ်တော်မှ ရွေးချယ်ခန့်အပ်သော ပုဂ္ဂိုလ်နှစ်ဦးတို့ဖြင့် ဖွဲ့စည်းရမည်။

(ဂ) ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ တရားရုံးတွင် ပါဝင်မည့် အမျိုးသားလွှတ်တော်၏ ကိုယ်စားလှယ်နှင့် ပြည်သူ့လွှတ်တော်၏ ကိုယ်စားလှယ်များရွေးချယ်ခြင်းဆိုင်ရာဥပဒေကို ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်းရမည်။

## ပုဒ်မ (၁၃၅) ဖက်ဒရယ်ပြည်ထောင်စုတရားရုံးများဖွဲ့စည်းခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စုတရားစီရင်ရေးအာဏာကို ကျင့်သုံးရန်အတွက် ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ်နှင့် ၎င်း၏လက်အောက်ခံ ဖက်ဒရယ်ပြည်ထောင်စုတရားရုံးများကို ဖွဲ့စည်းထားရှိရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုတရားရုံးများဖွဲ့စည်းခြင်းနှင့် ဖက်ဒရယ်တရားသူကြီးများခန့်အပ်ခြင်းဆိုင်ရာဥပဒေကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းရမည်။

## ပုဒ်မ (၁၃၆) ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ် ဖွဲ့စည်းခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ်ကို တရားသူကြီး (၉) ဦးဖြင့် ဖွဲ့စည်းရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်က အမည်စာရင်းတင်သွင်းသူများကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ဖြင့် သမ္မတက ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများအဖြစ် ခန့်အပ်ရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးအဖြစ် မည်သည့်လွှတ်တော်၏ ကိုယ်စားလှယ်ကိုမျှ အမည်စာရင်းတင်သွင်းခြင်း မပြုရ။

(ဃ) ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးများအနက်မှ တဦးကို တရားသူကြီးချုပ်အ ဖြစ် မိမိတို့ အချင်းချင်းထဲမှရွေးချယ်ပြီး၊ သမ္မတက ခန့်အပ်ရမည်။

## ပုဒ်မ (၁၃၇) တရားလွှတ်တော်ချုပ် တရားသူကြီးများ၏အရည်အချင်း

ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ် တရားသူကြီးများသည် —

(က) ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားဖြစ်ရမည်။

(ခ) အနည်းဆုံး အသက် (၄၅) နှစ် ပြည့်ပြီးသူဖြစ်ရမည်။

(ဂ) ဥပဒေရေးရာလုပ်ငန်းများတွင် အနည်းဆုံး (၁၀) နှစ် အတွေ့အကြုံရှိပြီးသူဖြစ်ရမည်။

## ပုဒ်မ (၁၃၈) ဖက်ဒရယ်တရားလွှတ်တော်ချုပ် တရားသူကြီးများ၏သက်တမ်းကာလ

ဖက်ဒရယ်တရားလွှတ်တော်ချုပ် တရားသူကြီးများသည် —

(က) တရားသူကြီးကိုယ်တိုင်က ဖက်ရယ်ပြည်ထောင်စု သမ္မတထံသို့ နုတ်ထွက်လွှာကို တင်သွင်းလျှင်ဖြစ်စေ၊

(ခ) မိမိ၏တာဝန်ကိုထမ်းဆောင်ရန် မစွမ်းဆောင်နိုင်သည့် အခြေအနေသို့ရောက်ရှိလျှင်ဖြစ်စေ၊

(ဂ) အကျင့်သိက္ခာ လွန်စွာပျက်ပြားလျှင်ဖြစ်စေ၊

(ဃ) အသက် (၇၅) နှစ်ပြည့်မြောက်လျှင်ဖြစ်စေ သက်တမ်းကာလ ကုန်ဆုံးစေရမည်။

## ပုဒ်မ (၁၃၉)  ရုံးထိုင်ရာနေရာ

ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ်သည် ဖက်ဒရယ်ပြည်ထောင်စု၏ မြို့တော်တွင် ရုံးထိုင်ရမည်။ တရားလွှတ်တော်ချုပ်သည် ပြည်နယ်များရှိ ဖက်ဒရယ်ပြည်ထောင်စုတရားရုံးများတွင် ရုံးထိုင် ခွင့်ရှိစေရမည့်အပြင် လိုအပ်ပါက အခြားနေရာများတွင်လည်း ရုံးထိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၄၀)  ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ်၏ စီရင်ပိုင်ခွင့်အာဏာ

(က) ဖက်ဒရယ်ပြည်ထောင်စုတရားရုံးများသည် ပုဒ်မ (၁၃၄) ပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေဘဲ အောက်ပါကိစ္စရပ်များတွင် စီရင်ပိုင်ခွင့်အာဏာ ရှိစေရမည်။

(၁) ပြည်နယ်အချင်းချင်းကြားတွင် ဖြစ်ပွားသော အငြင်းပွားမှုများ

(၂) ပြည်နယ်တခု၏ ပြည်နယ်သားများနှင့် အခြားပြည်နယ်တခု၏ ပြည်နယ်သားများအကြားတွင် ဖြစ်ပွားသော အငြင်းပွားမှုများနှင့် မှုခင်းများ

(၃) ပြည်နယ်တရားရုံးချုပ်တခုမှ အခြားပြည်နယ် တရားရုံးချုပ်တခုသို့ လွှဲပြောင်းစစ်ဆေးရန် အမှုများ

(၄) ပြည်နယ်တရားရုံးတခုနှင့် အခြားပြည်နယ် တရားရုံးတခုအကြား စီရင်ပိုင်ခွင့်နှင့် ပတ်သက်သည့် အငြင်းပွားမှုများ

(၅) နိုင်ငံခြားကုမ္ပဏီများနှင့် ပြည်တွင်းကုမ္ပဏီများ (သို့မဟုတ်) ပြည်နယ် အစိုးရ (သို့မဟုတ်) ဖက်ဒရယ် ပြည်ထောင်စုတို့အကြား ချုပ်ဆိုသော စာချုပ်စာတမ်းများကို အကြောင်းပြု၍ ပေါ်ပေါက်သော အငြင်းပွားမှုများ

(၆) လူမှုဖြစ်ခြင်းနှင့် ဒေဝါလီခံခြင်းဆိုင်ရာ မှုခင်းများ

(ခ) ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ်သည် အောက်ပါစာချွန်တော် အမိန့်များကို ထုတ်ပိုင်ခွင့် ရှိသည်။

(၁) ရှေ့တော်သွင်း စာချွန်တော်အမိန့်

(၂) အာဏာပေး စာချွန်တော်အမိန့်

(၃) တားမြစ်စေ စာချွန်တော်အမိန့်

(၄) အာဏာပိုင်မေး စာချွန်တော်အမိန့်

(၅) အမှုခေါ် စာချွန်တော်အမိန့်

(ဂ) ဖက်ဒရယ်ပြည်ထောင်စုတရားလွှတ်တော်ချုပ်၏ သီးသန့်စီရင်ပိုင်ခွင့် အာဏာနှင့်ပတ်သက်၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေဖြင့် ပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၄၁) စုံစမ်းစစ်ဆေးခြင်း

ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးများသည် ပုဒ်မ (၁၃၈) (ခ) နှင့် (ဂ) ပါ ပြဋ္ဌာန်းချက်များအပေါ်အခြေခံ၍ ဖက်ဒရယ်ပြည်ထောင်စုရှေ့နေချုပ်က ပြည်သူ့လွှတ်တော်သို့ တင်ပြလာသောအခါ အမျိုးသားလွှတ်တော်နှင့် ပြည်သူ့လွှတ်တော်မှ တူညီသော ကိုယ်စားလှယ်အရေအတွက်ပါဝင်သည့် စုံစမ်းစစ်ဆေးရေးကော်မရှင်ကို လွှတ်တော်နှစ်ရပ်ညှိနှိုင်း၍ ဖွဲ့စည်းရမည်။ ယင်းကော်မရှင်၏ စုံစမ်းစစ်ဆေးတွေ့ရှိချက်ကို ဖက်ဒရယ်ပြည်ထောင်စု လွှတ်တော်သို့ တင်ပြရမည်။ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် စုံစမ်းစစ်ဆေးရေးကော်မရှင်၏ တင်ပြချက်အပေါ်တွင် မဲပေး၍ ဆုံးဖြတ်ခြင်းပြုရမည်။

## ပုဒ်မ (၁၄၂) ဖက်ဒရယ်ပြည်ထောင်စု တရားသူကြီးများခန့်အပ်ခြင်း

(က) ဖက်ဒရယ်တရားသူကြီးများကို ခန့်အပ်ရာတွင် ဖက်ဒရယ်ပြည်ထောင်စုအစိုးရဝန်ကြီးချုပ်သည် ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးချုပ်နှင့် ညှိနှိုင်း၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ အတည်ပြုချက်ရယူရန် တင်ပြရမည်။ ဖက်ဒရယ်ပြည်ထောင်စု လွှတ်တော်၏အတည်ပြုချက်ဖြင့် ဖက်ဒရယ်ပြည်ထောင်စုသမ္မတက ဖက်ဒရယ်တရားသူကြီးများကို လက်မှတ်ရေးထိုး ခန့်အပ်ရမည်။

(ခ) ဖက်ဒရယ်တရားသူကြီးများ ခန့်အပ်ရာတွင် လူမျိုး၊ ဘာသာ၊ အသားအရောင်၊ လိင်ခွဲခြားခြင်း မရှိစေရ။

## ပုဒ်မ (၁၄၃) ခံစားခွင့်လစာ

ဖက်ဒရယ်တရားသူကြီးများသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က သတ်မှတ်ပြဋ္ဌာန်းပေးသော လစာကို ရယူခံစား ပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၄၄) အခြားတာဝန်ထမ်းဆောင်ခွင့်မရှိခြင်း

ဖက်ဒရယ်တရားသူကြီးများသည် ၎င်းတို့တာဝန်ယူဆောင်ရွက်သည့် တရားစီရင်ရေးတာဝန်မှတပါး —

(က) လစာပေးသော အခြားလုပ်ငန်းဌာနများ၌ တာဝန်ယူခြင်းသော်လည်းကောင်း၊

(ခ) အမြတ်အစွန်းကို အခြေခံသည့် လုပ်ငန်းတခုခု၏ စီမံခန့်ခွဲရေး အဖွဲ့ဝင်အဖြစ်သော်လည်းကောင်း၊

(ဂ) လွှတ်တော်တရပ်ရပ်၏ ကိုယ်စားလှယ် (သို့မဟုတ်) အစိုးရအဖွဲ့ တခုခု၏ အဖွဲ့ဝင်သော်လည်းကောင်း မဖြစ်စေရ။

## ပုဒ်မ (၁၄၅) ကင်းလွတ်ခွင့်

ဖက်ဒရယ်တရားသူကြီးများသည် တင်ကူးကြံရွယ်ချက်ဖြင့် ဥပဒေချိုးဖောက်ခြင်းမှ လွဲ၍ ၎င်းတို့၏ တရားစီရင်ရေးဆိုင်ရာ လုပ်ဆောင်ချက်များနှင့်ပတ်သက်ပြီး အရေးယူတရားစွဲဆိုခြင်း မခံထိုက်စေရ။

# အခန်း (၉)
# နိုင်ငံသားဖြစ်ခြင်း
# Citizenship

## ပုဒ်မ (၁၄၆) နိုင်ငံသားအခွင့်အရေး

ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတဦးသည် ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များအားလုံး၌ နိုင်ငံသားတဦး ရသင့်ရထိုက်သော အခွင့်အရေးနှင့် ကင်းလွတ်ခွင့်များကို တူညီစွာခံစားရရှိစေရမည်။

## ပုဒ်မ (၁၄၇) ပြည်နယ်သားအခွင့်အရေး

နိုင်ငံသားတဦးသည် မိမိနေရင်းဒေသပြည်နယ်မှ အခြားပြည်နယ်တခုအတွင်းသို့ ပြောင်းရွှေ့နေထိုင်သောကိစ္စတွင် ပြောင်းရွှေ့နေထိုင်ရာ ပြည်နယ်၏ဥပဒေနှင့် အညီသာလျှင် အဆိုပါ ပြည်နယ်၏ပြည်နယ်သားဖြစ်ခွင့်နှင့် မဲပေးပိုင်ခွင့်၊ အရွေးချယ်ခံပိုင်ခွင့်ကို ရရှိစေရမည်။

## ပုဒ်မ (၁၄၈) နိုင်ငံသားအလိုအလျောက်ဖြစ်ခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်တခုခု၏ ပြည်နယ်သားတဦးသည် ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားဖြစ်သည်။

(ခ) နိုင်ငံသားမိဘနှစ်ဦးမှ မွေးဖွားလာသူတိုင်းသည် အလိုအလျောက် နိုင်ငံသားဖြစ်သည်။

(ဂ) နိုင်ငံသားမိဘတဦးဦးမှ ဖက်ဒရယ်ပြည်ထောင်စုနယ်နိမိတ်အတွင်း၌ မွေးဖွားလာသူတိုင်းသည် အလိုအလျောက် နိုင်ငံသားဖြစ်သည်။

(ဃ) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အတည်ပြုသည့်အချိန်တွင် နိုင်ငံသားဖြစ်ပြီး သူများသည် အလိုအလျောက်နိုင်ငံသား ဖြစ်သည်။

**ခြွင်းချက် ။ ။ ဤ ပုဒ်မ (၁၄၈) ပုဒ်မခွဲ (ဃ) အရ နိုင်ငံသားဖြစ်ပြီးသူများဟုဆိုရာတွင် တရားမဝင်သော နည်းလမ်းတခုခုကို အသုံးပြု၍ နိုင်ငံသားဖြစ်ထားသူများ အကြုံးမဝင်စေရ။**

## ပုဒ်မ (၁၄၉) ဥပဒေအရနိုင်ငံသားဖြစ်ခွင့်

(က) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အတည်မပြုမီအချိန်တွင် မြန်မာနိုင်ငံသားအဖြစ်မှ ရပ်စဲခံရသူများသည် ဥပဒေနှင့်အညီ နိုင်ငံသားဖြစ်ခွင့် လျှောက်ထားလာလျှင် နိုင်ငံသားအဖြစ် ပြန်လည်ရရှိစေရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုနယ်နိမိတ်ပြင်ပ၌ နိုင်ငံသားမိဘတဦးဦးမှ မွေးဖွားလာသောကလေးသည် နိုင်ငံသားအဖြစ် လျှောက်ထားပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၅၀) နိုင်ငံခြားသားများနိုင်ငံသားဖြစ်ခွင့်

(က) ၁၉၄၈ ခုနှစ် ဇန်နဝါရီလ (၄) ရက်နေ့မတိုင်မီကပင် မြန်မာနိုင်ငံအတွင်း၌ မွေးဖွား၍ အစဉ်တစိုက်နေထိုင်လာခဲ့သော နိုင်ငံခြားသားများသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ နိုင်ငံသားဖြစ်ခွင့် ရှိစေရမည်။

(ခ) နိုင်ငံခြားသားများ နိုင်ငံသားဖြစ်ခြင်းနှင့်ပတ်သက်၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြုပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၅၁) တပြိုင်နက်နိုင်ငံသားဖြစ်ခွင့်

ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတဦးသည် အခြားနိုင်ငံတခု၏ နိုင်ငံသားအဖြစ် ခံယူခွင့်ရှိသည်။ ထိုသို့ ခံယူခြင်းကြောင့် မူလဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားဖြစ်မှု အလိုအလျောက် ဆုံးရှုံးခြင်း မရှိစေရ။ တပြိုင်နက်တည်း နိုင်ငံသား ဖြစ်ခွင့်ရှိသည်။

## ပုဒ်မ (၁၅၂) နိုင်ငံသားအဖြစ်မဲပေးပိုင်ခွင့်

ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတဦးသည် မိမိနေရင်းပြည်နယ်မှ အခြားပြည်နယ်တခုသို့လည်းကောင်း၊ အခြားနိုင်ငံတခုသို့လည်းကောင်း ပြောင်းရွှေ့နေထိုင်သော်လည်း ဖက်ဒရယ်ပြည်ထောင်စုတခုလုံးနှင့် သက်ဆိုင်သောဆန္ဒခံယူပွဲ၊ ရွေးချယ်တင်မြှောက်ပွဲများတွင် မဲပေးပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၅၃) ပြည်နယ်သားအဖြစ်မဲပေးခွင့်၊ အရွေးချယ်ခံပိုင်ခွင့်

ဖက်ဒရယ်ပြည်ထောင်စု နိုင်ငံသားတဦးသည် သက်ဆိုင်ရာ ပြည်နယ်တခုခုတွင်သာ မဲပေးခွင့်၊ အရွေးချယ်ခံပိုင်ခွင့်ကို ကျင့်သုံးပိုင်ခွင့်ရှိသည်။ ယင်းအခွင့်အရေးကို ပြည်နယ်တခုထက်ပို၍ ကျင့်သုံးပိုင်ခွင့် မရှိစေရ။

## ပုဒ်မ (၁၅၄) ပြည်နယ်သားဖြစ်ခြင်း

ဖက်ဒရယ်ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်များ၏ ဥပဒေပြုလွှတ်တော်များသည် ပြည်နယ်သားဖြစ်ခြင်းဆိုင်ရာဥပဒေကို ပြဋ္ဌာန်းပိုင်ခွင့် ရှိစေရမည်။

## ပုဒ်မ (၁၅၅) အဝေးရောက်နိုင်ငံသားများ

ဖက်ဒရယ်ပြည်ထောင်စု၏ ပြင်ပအခြားနိုင်ငံများသို့ ရောက်ရှိနေထိုင်လျက်ရှိသော နိုင်ငံသားများ၏ အခွင့်အရေးနှင့် တာဝန်ဝတ္တရားဆိုင်ရာကိစ္စရပ်များအတွက် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြဋ္ဌာန်းရမည်။

# အခန်း (၁၀)
# ဖက်ဒရယ်ပြည်ထောင်စုကာကွယ်ရေးနှင့်လုံခြုံရေးတပ်ဖွဲ့များ
# Federal Defense and Security Services

## ပုဒ်မ (၁၅၆) ဖက်ဒရယ်ပြည်ထောင်စု ကာကွယ်ရေးနှင့် လုံခြုံရေးတပ်ဖွဲ့များဆိုင်ရာ အခြေခံမူများ

(က) ဖက်ဒရယ်ပြည်ထောင်စု လက်နက်ကိုင်တပ်ဖွဲ့များသည် ဖက်ဒရယ်ပြည်ထောင်စု၏လုံခြုံရေးနှင့် ပြည်သူလူထုကို ကာကွယ်စောင့်ရှောက်ရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စု လက်နက်ကိုင်တပ်ဖွဲ့များသည် ငြိမ်းချမ်းရေးကို ထိန်းသိမ်းရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စု လက်နက်ကိုင်တပ်ဖွဲ့များသည် ဤဖွဲ့စည်းပုံအခြေခံဥပဒေကို လေးစားလိုက်နာရမည်။

(ဃ) ဖက်ဒရယ်ပြည်ထောင်စု လက်နက်ကိုင်တပ်ဖွဲ့ဝင်များသည် မည်သည့်နိုင်ငံရေးပါတီ၏ ပါတီဝင်မျှ မဖြစ်စေရ။ မည်သည့် နိုင်ငံရေးပါတီ (သို့တည်းမဟုတ်) လူပုဂ္ဂိုလ်တို့၏ သြဇာခံ မဖြစ်စေရ။

(င) ဖက်ဒရယ်ပြည်ထောင်စုကာကွယ်ရေးနှင့် လုံခြုံရေးဆိုင်ရာတပ်ဖွဲ့များ ဖွဲ့စည်းတာဝန်ပေးအပ်မှုတွင် ဖက်ဒရယ်ပြည်ထောင်စု အဖွဲ့ဝင် ပြည်နယ်များအားလုံး၏ အချိုးကျကိုယ်စားပြုမှု ရှိရမည်။

(စ) ဖက်ဒရယ်ပြည်ထောင်စု လက်နက်ကိုင်တပ်ဖွဲ့များအတွင်း လူမျိုး၊ ဘာသာ၊ အသားအရောင်၊ လိင်နှင့် လိင်စိတ်ကွဲပြားမှုတို့အပေါ် အခြေခံ၍ခွဲခြားဆက်ဆံခြင်း မရှိစေရ။

## ပုဒ်မ (၁၅၇) ဖက်ဒရယ်ပြည်ထောင်စုကာကွယ်ရေးနှင့် လုံခြုံရေးတပ်ဖွဲ့များ

ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် ပြည်ထောင်စု၏ကာကွယ်ရေးနှင့် လုံခြုံရေးဆိုင်ရာ ကိစ္စရပ်များအတွက် လိုအပ်သော ဖက်ဒရယ်ပြည်ထောင်စု လက်နက်ကိုင်တပ်ဖွဲ့များနှင့် အမျိုးသားလုံခြုံရေးဆိုင်ရာအဖွဲ့များကို (ဤ ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ) ဥပဒေပြဋ္ဌာန်း၍ ဖွဲ့စည်းတာဝန်ပေးအပ်နိုင်သည်။

## ပုဒ်မ (၁၅၈) ဖက်ဒရယ်ပြည်ထောင်စု၏ ကာကွယ်ရေးဆိုင်ရာအခြေခံမူဝါဒများ

ဖက်ဒရယ်ပြည်ထောင်စု၏ ကာကွယ်ရေးဆိုင်ရာအခြေခံမူဝါဒများကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ချမှတ်ပေးရမည်။

## ပုဒ်မ (၁၅၉) ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်

(က) ဖက်ဒရယ်ပြည်ထောင်စုအား ပြည်ပရန်မှ ကာကွယ်ရေးအတွက် ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်တရပ်ကို ဖွဲ့စည်းထူထောင်ရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်၏ စစ်သေနာပတိချုပ် ဖြစ်စေရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်သည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ချမှတ်ထားသော ပြည်ထောင်စုတပ်မတော်၏ ကာကွယ်ရေးဆိုင်ရာ အခြေခံမူဝါဒများကို တာဝန်ခံဆောင်ရွက်ရမည်။

(ဃ) ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်၏ နေ့စဉ်လုပ်ငန်းဆိုင်ရာကိစ္စများသည် ကာကွယ်ရေးဝန်ကြီးဌာန၏ ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။

(င) ဖက်ဒရယ်ပြည်ထောင်စုကာကွယ်ရေးဝန်ကြီးအဖြစ် ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်တွင် လက်ရှိ တာဝန်ထမ်းဆောင်နေသူ မည်သူ့ကိုမျှ ခန့်အပ်ခြင်း မရှိစေရ။ ဖက်ဒရယ်ပြည်ထောင်စု ကာကွယ်ရေးဝန်ကြီးသည် အရပ်ဘက်ဆိုင်ရာပုဂ္ဂိုလ် ဖြစ်စေရမည်။

## ပုဒ်မ (၁၆၀) ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်ဖွဲ့စည်းခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စု တပ်မတော်ကို ကြည်းတပ်၊ ရေတပ်၊ လေတပ်တို့ဖြင့် လိုအပ်ချက်နှင့်အညီ ဖွဲ့စည်းထားရှိရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်၏ ဖွဲ့စည်းမှုဆိုင်ရာဥပဒေကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းသတ်မှတ်ရမည်။

## ပုဒ်မ (၁၆၁) အရပ်ဘက်အုပ်ချုပ်ရေး

ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်သည် မည်သည့်အချိန်အခါမဆို အရပ်ဘက်အစိုးရအုပ်ချုပ်ရေးအောက်တွင် ရှိစေရမည်။

## ပုဒ်မ (၁၆၂) အရေးပေါ်အခြေအနေတွင် ကြီးကြပ်ကွပ်ကဲခြင်း

ဖက်ဒရယ်ပြည်ထောင်စု၏ အရေးပေါ်အခြေအနေအောက်တွင် ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် —

(က) စစ်သေနာပတိချုပ်၏ အခွင့်အာဏာကိုအသုံးပြုပြီး ဖက်ဒရယ်ပြည်ထောင်စုတပ်မတော်အပါအဝင် ကာကွယ်ရေးနှင့် လုံခြုံရေးတပ်ဖွဲ့များကို ကြီးကြပ်ကွပ်ကဲရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုအတွင်းရှိ မည်သည့် ကာကွယ်ရေးနှင့် လုံခြုံရေးဆိုင်ရာ တပ်ဖွဲ့ကိုမဆို ဖက်ဒရယ်ပြည်ထောင်စုလုံခြုံရေးအတွက် ဖက်ဒရယ်ပြည်ထောင်စုအစိုးရ၊ သက်ဆိုင်ရာပြည်နယ်အစိုးရများတို့နှင့် ညှိနှိုင်းပြီး ဆင့်ခေါ်ခွင့်၊ စုစည်းခွင့်၊ တာဝန်ပေးအပ်ခွင့်၊ ရုပ်သိမ်းခွင့် ရှိစေရမည်။

## ပုဒ်မ (၁၆၃) စစ်တက္ကသိုလ်များ

ဖက်ဒရယ်ပြည်ထောင်စု တပ်မတော်၏ ကြည်းတပ်၊ ရေတပ်၊ လေတပ်တို့အတွက် သီးခြားသော စစ်တက္ကသိုလ်များ ဖွဲ့စည်းတည်ထောင်ရမည်။ ယင်း တက္ကသိုလ်များတွင် ဖက်ဒရယ်ပြည်ထောင်စု အဖွဲ့ဝင်ပြည်နယ်များမှ အချိုးကျတက်ရောက်သင်ကြားခွင့် ရှိစေရမည်။

## ပုဒ်မ (၁၆၄) ပညာပေးသင်တန်းများ ဖွင့်လှစ်ပို့ချခြင်း

စစ်ပညာသင်တန်းအဆင့်ဆင့်တွင် စစ်ဘက်ဆိုင်ရာ ဘာသာရပ်များအပြင် —

(က) ဒီမိုကရေစီအခြေခံကျင့်စဉ်နှင့် လူ့အခွင့်အရေးဆိုင်ရာ သဘောတရားများ၊

(ခ) ဖက်ဒရယ်ပြည်ထောင်စု ဖွဲ့စည်းပုံအခြေခံဥပဒေအပါအဝင် အရပ်ဘက်အုပ်ချုပ်ရေးဆိုင်ရာ အခြေခံသဘောတရားများကိုပါ ထည့်သွင်းသင်ကြားပို့ချရမည်။

## ပုဒ်မ (၁၆၅) စစ်မှုထမ်းခြင်းဆိုင်ရာဥပဒေ

ဖက်ဒရယ်ပြည်ထောင်စု၏ အရွယ်ရောက်ပြီးသော နိုင်ငံသားတိုင်း ဥပဒေအရ စစ်မှုထမ်းရမည်။ နိုင်ငံသားများ စစ်မှုထမ်းရေးဆိုင်ရာဥပဒေကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၆၆) ဖက်ဒရယ်ပြည်ထောင်စု ရဲတပ်ဖွဲ့

(က) ဖက်ဒရယ်ပြည်ထောင်စုနှင့်သက်ဆိုင်သော အမျိုးသားလုံခြုံရေးနှင့် တရားဥပဒေစိုးမိုးရေးအတွက် ဖက်ဒရယ်ပြည်ထောင်စုရဲတပ်ဖွဲ့ကို ဖွဲ့စည်းထူထောင်ရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုရဲတပ်ဖွဲ့ကို အရပ်သားအစိုးရ အုပ်ချုပ်ရေးလက်အောက်တွင် ထားရှိရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုရဲတပ်ဖွဲ့ကို ဖွဲ့စည်းထူထောင်ရန်အတွက် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၆၇) ဖက်ဒရယ်ပြည်ထောင်စုထောက်လှမ်းရေးအဖွဲ့

(က) ဖက်ဒရယ်ပြည်ထောင်စု လုံခြုံရေးအတွက် ဖက်ဒရယ်ပြည်ထောင်စုထောက်လှမ်းရေးအဖွဲ့ကို ဖွဲ့စည်းရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုထောက်လှမ်းရေးအဖွဲ့ကို အရပ်သား အစိုးရအုပ်ချုပ်ရေးလက်အောက်တွင် ထားရှိရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုထောက်လှမ်းရေးအဖွဲ့ကို ဖွဲ့စည်းထူထောင်ရန်အတွက် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၆၈) အမျိုးသားလုံခြုံရေးကောင်စီ

အမျိုးသားလုံခြုံရေးကောင်စီကို ဖွဲ့စည်းနိုင်ရန် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်းရမည်။

# အခန်း (၁၁)
# အရေးပေါ်အခြေအနေ
# State of Emergency

## ပုဒ်မ (၁၆၉) အရေးပေါ်အခြေအနေ

အောက်ပါ အခြေအနေတရပ်ရပ်တွင် ဖက်ဒရယ်ပြည်ထောင်စု၏ အရေးပေါ်အခြေအနေကို ကြေညာပိုင်ခွင့် ရှိသည်။

(က) ဖက်ဒရယ်ပြည်ထောင်စုနယ်နိမိတ်ကို ပြည်ပလက်နက်ကိုင်တပ်များက တိုက်ခိုက်ခြင်း (သို့တည်းမဟုတ်) တိုက်ခိုက်မည်ဟု ခိုင်လုံသော အကြောင်းရှိခြင်း။

(ခ) ငြိမ်းချမ်းရေးနှင့် တရားဥပဒေစိုးမိုးမှုပျက်ပြားပြီး အများပြည်သူ၏ လုံခြုံမှုနှင့် အေးချမ်းသာယာမှုကို သိသာထင်ရှားစွာ ခြိမ်းခြောက်၊ ထိပါး၊ ပျက်ပြားသည့် အခြေအနေပေါ်ပေါက်ခြင်း။

(ဂ) သဘာဝဘေးအန္တရာယ်ကြောင့် ကြီးမားသည့် ပျက်စီးဆုံးရှုံးမှုများ၊ ထိခိုက်မှုများ၊ သေဆုံးမှုများဖြစ်ပေါ်ခြင်း (သို့တည်းမဟုတ်) ဖြစ်ပေါ်လာရန် ခိုင်လုံသော အကြောင်းရှိခြင်း။

## ပုဒ်မ (၁၇၀) အရေးပေါ်အခြေအနေကြေညာခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စုအစိုးရမှ အထက်ပုဒ်မ (၁၆၉) ပုဒ်မခွဲ (က) (ဂ) တို့အတွက် အရေးပေါ်အခြေအနေ ကြေညာပေးရန် တောင်းဆိုလာလျှင် ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုတဝှမ်းလုံးအတွက်ဖြစ်စေ၊ ဒေသတခုအတွက်ဖြစ်စေ၊ အရေးပေါ်အခြေအနေ ကြေညာပေးရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုအစိုးရမှ အထက်ပုဒ်မ (၁၆၉) ပုဒ်မခွဲ (ခ) အရ အရေးပေါ်အခြေအနေကြေညာပေးရန် တောင်းဆိုလာခြင်းဖြစ်ပါက ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုတဝှမ်းလုံးအတွက်ဖြစ်စေ၊ ဒေသတခုအတွက်ဖြစ်စေ၊ အရေးပေါ်အခြေအနေ ကြေညာပေးနိုင်သည်။

(ဂ) အရေးပေါ်အခြေအနေ ကြေညာခြင်းသည် ပုဒ်မ (၁၆၉) ပုဒ်မခွဲ (က) နှင့် (ခ) ပါ ကိစ္စရပ်များ အတွက်ဖြစ်ပါက ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်သည် အနီးကပ်ဆုံး ပြည်သူ့လွှတ်တော်ပုံမှန်အစည်းအဝေး (သို့တည်းမဟုတ်) ပြည်သူ့လွှတ်တော်အရေးပေါ်အစည်းအဝေးကို ခေါ်ယူ၍ တင်ပြအတည်ပြု

ချက်ရယူရမည်။ ပြည်သူ့လွှတ်တော်က အရေးပေါ်အခြေအနေ ကြေညာခြင်းကို အတည်မပြုပါက အရေးပေါ်အခြေအနေကြေညာခြင်းသည် ပျက်ပြယ်စေရမည်။

(ဃ) ပြည်သူ့လွှတ်တော် ဖျက်သိမ်းထားသောကာလအတွင်း အရေးပေါ်အခြေအနေကြေညာခြင်းဖြစ်ပါက ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်သည် ဖက်ဒရယ်ပြည်ထောင်စုသမ္မတထံသို့ တင်ပြ၍ အနီးကပ်ဆုံး အမျိုးသားလွှတ်တော် အစည်းအဝေး (သို့တည်းမဟုတ်) အမျိုးသားလွှတ်တော်အရေးပေါ်အစည်းအဝေးကိုခေါ်ယူ၍ အတည်ပြုချက် ရယူရမည်။ အမျိုးသားလွှတ်တော်က အရေးပေါ်အခြေအနေကြေညာခြင်းကို အတည်မပြုပါက အရေးပေါ်အခြေအနေကြေညာခြင်းသည် ပျက်ပြယ်စေရမည်။

## ပုဒ်မ (၁၇၁) တည်ရှိသည့်သက်တမ်းကာလ

(က) အရေးပေါ်အခြေအနေကြေငြာပြီးနောက် တည်ရှိရမည့် သက်တမ်းကာလကို အရေးပေါ် အခြေအနေ ကြေငြာရန် လိုအပ်သည့် အကြောင်းရင်းပေါ်မူတည်၍ အောက်ပါအတိုင်း သတ်မှတ်နိုင်သည်။

(၁) ပုဒ်မ (၁၆၉) ပုဒ်မခွဲ (က) ပါ ပြဋ္ဌာန်းချက်အရ အရေးပေါ်အခြေအနေကို ကြေငြာခြင်းဖြစ်လျှင် သက်တမ်းကာလကို (၃) လအထိ သတ်မှတ်နိုင်သည်။

(၂) ပုဒ်မ (၁၆၉) ပုဒ်မခွဲ (ခ) ပါ ပြဋ္ဌာန်းချက်အရ အရေးပေါ်အခြေအနေကို ကြေငြာခြင်းဖြစ်လျှင် သက်တမ်းကာလကို (၁) လအထိ သက်မှတ်နိုင်သည်။

(၃) ပုဒ်မ (၁၆၉) ပုဒ်မခွဲ (ဂ) ပါ ပြဋ္ဌာန်းချက်အရ အရေးပေါ်အခြေအနေကို ကြေငြာခြင်းဖြစ်လျှင် သက်တမ်းကာလကို (၆) လအထိ သတ်မှတ်နိုင်သည်။

(ခ) အရေးပေါ်အခြေအနေ သက်တမ်းကာလကို ထပ်မံသက်တမ်းတိုးမြှင့်ရန် လိုအပ်ပါက ပုဒ်မ (၁၇၁) ပုဒ်မခွဲ (က) ပါ သတ်မှတ်ထားသည့် ကာလထက် မကျော်လွန်သော တိုးမြှင့်မှုတိုင်းကို ပြည်သူ့လွှတ်တော်၏ သဘောတူအတည်ပြုချက်ဖြင့်သာ တိုးမြှင့်နိုင်သည်။ အကယ်၍ ပြည်သူ့လွှတ်တော်၏ ထက်ဝက်ကျော်ဆန္ဒမဲဖြင့် အတည်ပြုချက်မရရှိလျှင် မည်သည့်သက်တမ်းတိုးခြင်းကိုမျှ တရားဝင် မဖြစ်စေရ။

(ဂ) ပြည်သူ့လွှတ်တော် ဖျက်သိမ်းထားသောကာလအတွင်း အရေးပေါ်အခြေအနေ သက်တမ်းကာလကို ထပ်မံတမ်းတိုးမြှင့်ရန်လိုအပ်ပါက ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်သည် ဖက်ဒရယ်ပြည်ထောင်စုသမ္မတထံသို့တင်ပြ၍ အနီးကပ်ဆုံး အမျိုးသားလွှတ်တော်အစည်းအဝေး (သို့တည်းမဟုတ်) အမျိုးသားလွှတ်တော် အရေးပေါ်အစည်းအဝေးကိုခေါ်ယူ၍ အမျိုးသားလွှတ်တော်၏ ထက်ဝက်ကျော်ဆန္ဒမဲဖြင့် အတည်ပြုချက် ရယူရမည်။ အမျိုးသားလွှတ်တော်က အရေးပေါ်အခြေအနေသက်တမ်းကာက ထပ်မံတိုးမြှင့်ခြင်းကို အတည်မပြုပါက ပျက်ပြယ်စေရမည်။

## ပုဒ်မ (၁၇၂) လုပ်ပိုင်ခွင့်နှင့်တာဝန်

(က) ပုဒ်မ (၁၆၉) ပုဒ်မခွဲ (က) ပါ ဖက်ဒရယ်ပြည်ထောင်စု၏ အရေးပေါ်အခြေအနေအောက်တွင် ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် —

(၁) စစ်သေနာပတိချုပ်၏ အခွင့်အာဏာကိုအသုံးပြုပြီး ဖက်ဒရယ်ပြည်ထောင်စု၏ ကာကွယ်ရေးနှင့် လုံခြုံရေးတပ်ဖွဲ့များကို ကြီးကြပ်ကွပ်ကဲရမည်။

(၂) ဖက်ဒရယ်ပြည်ထောင်စုအတွင်းရှိ မည်သည့်ကာကွယ်ရေးနှင့် လုံခြုံရေးဆိုင်ရာတပ်ဖွဲ့ကိုမဆို ဖက်ဒရယ်ပြည်ထောင်စုလုံခြုံရေးအတွက် ဖက်ဒရယ်ပြည်ထောင်စု အစိုးရအဖွဲ့၊ သက်ဆိုင်ရာ ပြည်နယ်အစိုးရတို့နှင့် ညှိနှိုင်းပြီး ဆင့်ခေါ်ခွင့်၊ စုစည်းခွင့်၊ တာဝန်ပေးအပ်ခွင့်၊ ရုပ်သိမ်းခွင့် ရှိစေရမည်။

(ခ) ပုဒ်မ (၁၆၉) ပုဒ်မခွဲ (ခ) ပါ ဖက်ဒရယ်ပြည်ထောင်စု၏ အရေးပေါ်အခြေအနေအောက်တွင် ဖက်ဒရယ်ပြည်ထောင်စုအစိုးရသည် ပြည်နယ်လုံခြုံရေးတပ်များကို စုစည်းအသုံးချခြင်း၊ ပြည်နယ်အစိုးရများသို့ ညွှန်ကြားချက်များ ထုတ်ပြန်ခြင်းတို့ကို ပြုပိုင်ခွင့် ရှိစေရမည်။

(ဂ) ပုဒ်မ (၁၆၉) ပုဒ်မခွဲ (ဂ) ပါ ဖက်ဒရယ်ပြည်ထောင်စု၏ အရေးပေါ်အခြေအနေအောက်တွင် ဖက်ဒရယ်ပြည်ထောင်စုအစိုးရသည် —

(၁) ပြည်နယ် လုံခြုံရေးတပ်များကို စုစည်းအသုံးချခြင်း၊ ပြည်နယ်အစိုးရများသို့ ညွှန်ကြားချက်များ ထုတ်ပြန်ခြင်းတို့ကို ပြုပိုင်ခွင့် ရှိစေရမည်။

(၂) ပြည်နယ်လုံခြုံရေးတပ်ဖွဲ့များနှင့် လုံလောက်ခြင်း မရှိမှသာလျှင် ဖက်ဒရယ်ပြည်ထောင်စု တပ်မတော်ကို အကန့်အသတ်ဖြင့် အသုံးပြုစေရမည်။

(ဃ) အရေးပေါ်အခြေအနေကာလအတွင်း ဖက်ဒရယ်ပြည်ထောင်စုအစိုးရ၏ ဆောင်ရွက်ချက်မှန်သမျှကို အနီးကပ်ဆုံး ပြည်သူ့လွှတ်တော်နှင့် ဖက်ဒရယ် ပြည်ထောင်စုလွှတ်တော်သို့ တင်ပြအစီရင်ခံရမည်။

## ပုဒ်မ (၁၇၃) ဖွဲ့စည်းပုံအခြေခံဥပဒေအရစီစစ်ခြင်း

ဤဖွဲ့စည်းပုံအခြေခံဥပဒေအရ အာဏာအပ်နှင်းထားသော ဖွဲ့စည်းပုံအခြေခံဥပဒေ ဆိုင်ရာတရားရုံးသည် —

(က) အရေးပေါ်အခြေအနေတရပ်ကြေညာခြင်း

(ခ) အရေးပေါ်အခြေအနေ၏ သက်တမ်းကာလတိုးမြှင့်ခြင်း

(ဂ) အရေးပေါ်အခြေအနေတရပ် ကြေညာခြင်းကြောင့် ပြဋ္ဌာန်းထားသောဥပဒေ သို့တည်းမဟုတ် အခြားလုပ်ဆောင်မှုတရပ်သည် ဤဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့် ညီညွတ်ခြင်းရှိမရှိကို စီစစ်ဆုံးဖြတ်နိုင်သည်။

## ပုဒ်မ (၁၇၄) အရေးပေါ်အခြေအနေကာလအတွင်း တရားစီရင်ရေး

မည်သို့သော အရေးပေါ် အခြေအနေအောက်တွင်မဆို တရားစီရင်ရေးအာဏာ သည် တရားရုံးများတွင်သာ တည်ရှိရမည်။ တည်ဆဲဥပဒေနှင့်အညီ ခန့်အပ်ထား သော တရားသူကြီးများကသာ တရားစီရင်ရမည်။

## ပုဒ်မ (၁၇၅) ရုပ်သိမ်းပိုင်ခွင့်မရှိသောအခြေခံအခွင့်အရေးများ

ဖက်ဒရယ်ပြည်ထောင်စု၏ အရေးပေါ်အခြေအနေတရပ် ကြေညာခြင်း၏ အကျိုး ဆက်ကြောင့် ပြဋ္ဌာန်းသောဥပဒေ (သို့တည်းမဟုတ်) မည်သည့်လုပ်ဆောင်မှုကမျှ အခန်း (၂) ပုဒ်မ (၁၁) နှင့် (၁၂) ပါ အခွင့်အရေးများအပါအဝင် နိုင်ငံသားတဦး၏ လူ့ဂုဏ်သိက္ခာနှင့် အသက်ရှင်ရပ်တည်ပိုင်ခွင့်တို့ကို မထိခိုက်စေရ။

## ပုဒ်မ (၁၇၆) အရေးပေါ်ကာလအတွင်းဥပဒေပြဋ္ဌာန်းချက်

အရေးပေါ်အခြေအနေကြေညာခြင်း၏ နောက်ဆက်တွဲကြောင့် လူပုဂ္ဂိုလ်နှင့် ပတ် သက်၍ဖြစ်စေ၊ ပစ္စည်းပိုင်ဆိုင်မှု နှင့်ပတ်သက်၍ဖြစ်စေ၊ ပုဒ်မ (၁၇၅) ပါ ရုပ်သိမ်းပိုင် ခွင့်မရှိသော အခြေခံအခွင့်အရေးများမှလွဲ၍ မည်သည့်အခွင့်အရေးနှင့် ကန့်သတ် ချက်များအတွက်မဆို လိုအပ်သောဥပဒေကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်မှ ဥပဒေပြုပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၇၇) အရေးပေါ်အခြေအနေပြီးဆုံးခြင်း

(က) သတ်မှတ်ထားသည့် အရေးပေါ်အခြေအနေသက်တမ်းကာလ အလို အလျောက်ကုန်ဆုံးလျှင်ဖြစ်စေ၊ သမ္မတမှ ရုပ်သိမ်းလျှင်ဖြစ်စေ၊ လွှတ်တော် တရပ်ရပ်မှ အတည်မပြုလျှင်ဖြစ်စေ အရေးပေါ်အခြေအနေ သက်တမ်းကာလ ပြီးဆုံးစေရမည်။

(ခ) အရေးပေါ် သက်တမ်းကာလ ပြီးဆုံးကြောင်းကို တရားဝင်နိုင်ငံတော်ပြန်တမ်း ဖြင့် ထုတ်ပြန်ကြေငြာရမည်။

# အခန်း (၁၂)
# အထွေထွေပြဋ္ဌာန်းချက်များ
# General Provision

**ပုဒ်မ (၁၇၈)  ဖက်ဒရယ်ပြည်ထောင်စုအလံတော်**

ဖက်ဒရယ်ပြည်ထောင်စု၏ အလံတော်မှာ ——————

**ပုဒ်မ (၁၇၉)  ဖက်ဒရယ်ပြည်ထောင်စုတံဆိပ်**

ဖက်ဒရယ်ပြည်ထောင်စု၏ ပြည်ထောင်စုတံဆိပ်မှာ ——————

**ပုဒ်မ (၁၈၀)  ဖက်ဒရယ်ပြည်ထောင်စုရုံးတံဆိပ်**

ဖက်ဒရယ်ပြည်ထောင်စု၏ ရုံးတံဆိပ်မှာ ——————

**ပုဒ်မ (၁၈၁)  ဖက်ဒရယ်ပြည်ထောင်စုသီချင်း**

ဖက်ဒရယ်ပြည်ထောင်စု၏ ပြည်ထောင်စုသီချင်းမှာ ——————

**ပုဒ်မ (၁၈၂)  ဖက်ဒရယ်ပြည်ထောင်စုမြို့တော်**

ဖက်ဒရယ်ပြည်ထောင်စု၏ မြို့တော်မှာ မဟာရန်ကုန်ဖြစ်သည်။ ဖက်ဒရယ်ပြည်ထောင်စုအစိုးရအဖွဲ့ ရုံးစိုက်ရာနယ်မြေကို ဖက်ဒရယ်ပြည်ထောင်စုနယ်မြေ အဖြစ်သတ်မှတ်သည်။ ဖက်ဒရယ်ပြည်ထောင်စုမြို့တော်နယ်မြေအတွက် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်းပေးရမည်။

**ပုဒ်မ (၁၈၃)  ရုံးသုံးဘာသာ**

(က) ဖက်ဒရယ်ပြည်ထောင်စု၏ ရုံးသုံးဘာသာအဖြစ် ဗမာဘာသာနှင့် အင်္ဂလိပ်ဘာသာကို သတ်မှတ်သည်။

(ခ) ပြည်ထောင်စုအဖွဲ့ဝင် ပြည်နယ်အသီးသီးတွင် ဖက်ဒရယ်ပြည်ထောင်စု၏ ရုံးသုံးဘာသာအပြင် ယင်းပြည်နယ်၏ အမျိုးသားဘာသာကိုလည်း ရုံးသုံးဘာသာအဖြစ် သတ်မှတ်နိုင်သည်။

## ပုဒ်မ (၁၈၄) ကျမ်းသစ္စာကျိန်ဆိုခြင်း

ဖက်ဒရယ်ပြည်ထောင်စု၏ —

(က) သမ္မတ

(ခ) ဝန်ကြီးချုပ်

(ဂ) အစိုးရအဖွဲ့ဝင် ဝန်ကြီးများ

(ဃ) ဖက်ဒရယ်ပြည်ထောင်စု ရှေ့နေချုပ်

(င) ဖက်ဒရယ်ပြည်ထောင်စု တရားလွှတ်တော်ချုပ် တရားသူကြီးများ

(စ) ဖက်ဒရယ်ပြည်ထောင်စု စာရင်းစစ်ချုပ်

တို့သည် မိမိတို့အား ရွေးချယ်ခန့်အပ်တာဝန်ပေးခြင်း အတည်ပြုပြီးသည်နှင့် တပြိုင်နက် သတ်မှတ်ပြဌာန်းထားသော ကျမ်းကျိန်လွှာအတိုင်း သက်ဆိုင်ရာ နေရာဌာနများတွင် မဆိုင်းမတွ ကျမ်းသစ္စာကျိန်ဆိုရမည်။

## ပုဒ်မ (၁၈၅) ကော်မရှင်

(က) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် အောက်ပါ လွပ်လပ်သောကော်မရှင်များကို ဖွဲ့စည်းနိုင်ရန် ဥပဒေများ ပြဌာန်းရမည်။

(၁) လူ့အခွင့်ရေးကော်မရှင်

(၂) ကျား–မ တန်းတူညီမျှရေးကော်မရှင်

(၃) အဂတိလိုက်စားမှု စုံစမ်းတိုက်ဖျက်ရေးကော်မရှင်

(၄) ပြည်ထောင်စုဝန်ထမ်းရေးရာကော်မရှင်

(၅) ရွေးကောက်ပွဲကော်မရှင်

(၆) သဘာဝပတ်ဝန်းကျင်ထိမ်းသိမ်းရေးကော်မရှင်

(၇) ကလေးအခွင့်အရေးကာကွယ်ရေးကော်မရှင်

(၈) လူနည်းစုအခွင့်အရေး ကာကွယ်ရေးကော်မရှင်

(ခ) အထက်ပါကော်မရှင်များ၏ ထမ်းဆောင်ရမည့်တာဝန်များကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဌာန်းရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သည် အထက်ပါ ကော်မရှင်များအပြင် လိုအပ်သော ကော်မရှင်များကို ဖွဲ့စည်းတာဝန်ပေးအပ်နိုင်သည်။

## ပုဒ်မ (၁၈၆) လူ့အခွင့်ရေးကော်မရှင်

(က) အမျိုးသားလွှတ်တော်က ရွေးချယ်အမည်စာရင်းတင်သွင်းသော ပုဂ္ဂိုလ် (၁၁) ဦးကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က လက်ခံအတည်ပြုပြီးပါက

ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် လူ့အခွင့်အရေးကော်မရှင် အဖွဲ့ဝင်များ အဖြစ် ခန့်အပ်တာဝန်ပေးအပ်ရမည်။

(ခ) ထိုကော်မရှင်သည် မိမိ၏ သဘောဆန္ဒအလျောက်သော်လည်းကောင်း၊ တိုင်တန်းချက် လက်ခံရရှိသောအခါတွင်သော်လည်းကောင်း၊ လူ့အခွင့်ရေးချိုးဖောက်မှုများကို လွတ်လပ်စွာ စုံစမ်းစစ်ဆေးနိုင်ခွင့် ရှိစေရမည်။

(ဂ) လူ့အခွင့်ရေးကော်မရှင်သည် မိမိဆောင်ရွက်ချက်များကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ အစီရင်ခံ တင်ပြရမည်။

## ပုဒ်မ (၁၈၇) ရွေးကောက်ပွဲကော်မရှင်

အမျိုးသားလွှတ်တော်က ရွေးချယ် အမည်စာရင်းတင်သွင်းသော ပုဂ္ဂိုလ် (၁၁) ဦးကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က လက်ခံအတည်ပြုပြီးပါက ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ရွေးကောက်ပွဲကော်မရှင် အဖွဲ့ဝင်များအဖြစ် ခန့်အပ်တာဝန်ပေးအပ်ရမည်။

## ပုဒ်မ (၁၈၈) အမှန်တရားဖော်ထုတ်ရေးနှင့် ပြန်လည်သင့်မြတ်ရေးကော်မရှင်

(က) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အတည်မပြုမီ ကာလအတောအတွင်း အာဏာပိုင် တရပ်ရပ်၏ ပြုမူဆောင်ရွက်ချက် တစုံတရာကြောင့် ထိခိုက်နစ်နာဆုံးရှုံးမှု ခံစားရသော နိုင်ငံသားများ၏ နစ်နာချက်များကို စုံစမ်းစစ်ဆေးဖော်ထုတ်နိုင်ရန်အတွက် အမှန်တရားဖော်ထုတ်ရေးနှင့် ပြန်လည်သင့်မြတ်ရေးကော်မရှင် တရပ်ကို ဖွဲ့စည်းဆောင်ရွက်ရမည်။

(ခ) အမှန်တရားဖော်ထုတ်ရေးနှင့် ပြန်လည်သင့်မြတ်ရေးကော်မရှင်၏ ဖွဲ့စည်းမှု၊ သက်တမ်းကာလ၊ တာဝန်နှင့် လုပ်ပိုင်ခွင့်များကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေ ပြဋ္ဌာန်းပေးရမည်။

(ဂ) ကော်မရှင်ကို တူညီသော အမျိုးသား၊ အမျိုးသမီး ကိုယ်စားလှယ်ဦးရေဖြင့် ဖွဲ့စည်းရမည်။

(ဃ) အသွင်ကူးပြောင်းရေးကာလ နစ်နာချက်များအား ပြန်လည်ကုစားရေးအတွက် လိုအပ်သော လုပ်ဆောင်ချက်များကို ဆောင်ရွက်နိုင်ရန် ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၈၉) နိုင်ငံတကာသဘောတူညီချက်နှင့် စာချုပ်များကိစ္စ

(က) ဖက်ဒရယ်ပြည်ထောင်စုအစိုးရက သဘောတူလက်မှတ်ရေးထိုးခဲ့ပြီး တင်ပြလာသော နိုင်ငံတကာဆိုင်ရာသဘောတူညီချက်များနှင့် စပ်လျဉ်း၍ ဥပဒေပြုရန်လိုသော (သို့တည်းမဟုတ်) ဥပဒေပြုရန် အကြောင်းရှိသော နိုင်ငံတကာသဘောတူညီချက်ကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဆက်လက်၍ အတည်မပြုခဲ့သော် အဆိုပါသဘောတူညီချက်သည် အတည်မဖြစ်စေရ။

**ခြွင်းချက် ။ ။ ဤပုဒ်မခွဲ (ခ) သည် ဖက်ဒရယ်ပြည်ထောင်စု လွှတ်တော်သို့ တင်သွင်းလာသော ဖက်ဒရယ်ပြည်ထောင်စုအစိုးရ၏ နည်းပညာဆိုင်ရာကိစ္စရပ်များနှင့် စီမံခန့်ခွဲအုပ်ချုပ်မှုဆိုင်ရာ အစိုးရအချင်းချင်းသဘောတူညီချက်များနှင့် မသက်ဆိုင်စေရ။**

(ခ) နည်းပညာဆိုင်ရာကိစ္စရပ်များနှင့် စီမံခန့်ခွဲအုပ်ချုပ်မှုဆိုင်ရာ ကိစ္စရပ်များ ဖြစ်မဖြစ်အတည်ပြုခြင်းကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က စိစစ်ဆုံးဖြတ်ရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က အတည်ပြုပြဋ္ဌာန်းခြင်းမပြုလျှင် မည်သည့် နိုင်ငံတကာဆိုင်ရာ သဘောတူညီချက်ကိုမျှ ဖက်ဒရယ်ပြည်ထောင်စု၏ ဥပဒေ တစိတ်တဒေသ မဖြစ်စေရ။

## ပုဒ်မ (၁၉၀) လူဦးရေသန်းခေါင်စာရင်းကောက်ယူခြင်း

(က) ပြည်သူ့လွှတ်တော်သည် လူဦးရေသန်းခေါင်စာရင်း ကောက်ယူရေးကော်မရှင်ကို ဖွဲ့စည်းတာဝန် ပေးအပ်ရမည်။

(ခ) အနည်းဆုံး ဆယ်နှစ်တကြိမ် လူဦးရေသန်းခေါင်စာရင်း ကောက်ယူရမည်။

## ပုဒ်မ (၁၉၁) တရားဝင်ငွေကြေးနှင့် ပစ္စည်းပိုင်ဆိုင်မှုဆိုင်ရာပြဋ္ဌာန်းချက်

(က) နိုင်ငံရေးတာဝန်ကို ထမ်းဆောင်နေသော ပုဂ္ဂိုလ်များသည် ၎င်းတို့ပိုင်ဆိုင်သော ငွေကြေးနှင့် ပစ္စည်းဥစ္စာများကို ဖော်ပြရန် တာဝန်ရှိစေရမည်။

(ခ) အထက်ပါ ပုဒ်မခွဲ (က) ပါပြဋ္ဌာန်းချက်များနှင့် ပတ်သက်၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်နှင့် ပြည်နယ်ဥပဒေပြုလွှတ်တော်များမှ ဥပဒေပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၉၂) စာရင်းစစ်ချုပ်

ဖက်ဒရယ်ပြည်ထောင်စုသမ္မတသည် ဖက်ဒရယ်ပြည်ထောင်စုဝန်ကြီးချုပ်မှ အဆိုပြုတင်သွင်းလာသူကို ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ဖြင့်

စာရင်စစ်ချုပ်အဖြစ် ခန့်အပ်ရမည်။ စာရင်းစစ်ချုပ်သည် ဖက်ဒရယ်ပြည်ထောင်စု အစိုးရ၏ ငွေစာရင်းများကို လွတ်လပ်စွာ စစ်ဆေးပိုင်ခွင့် ရှိစေရမည်။ စာရင်းစစ်ဆေး တွေ့ရှိချက်များကို ဖက်ဒရယ်ပြည်ထောင်စုအစိုးရနှင့် ဖက်ဒရယ်ပြည်ထောင်စုလွှတ် တော်သို့ အစီရင်ခံတင်ပြရမည်။

## ပုဒ်မ (၁၉၃) ဖက်ဒရယ်ပြည်ထောင်စုဗဟိုဘဏ်

(က) ဖက်ဒရယ်ပြည်ထောင်စု ငွေကြေးရေးရာကို ထိန်းချုပ်ကွပ်ကဲနိုင်ရန် ဖက်ဒရယ် ပြည်ထောင်စုလွှတ်တော်မှ ပြဋ္ဌာန်းသောဥပဒေနှင့်အညီ လွတ်လပ်သော ဖက်ဒရယ်ပြည်ထောင်စု ဗဟိုဘဏ်တခု ထူထောင်ရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုဘဏ်သည် ဖက်ဒရယ်ပြည်ထောင်စု၏ ငွေကြေး တန်ဖိုးများတည်ငြိမ်မှု ရှိစေရေးအတွက် တာဝန်ယူဆောင်ရွက်ရမည်။

(ဂ) ဖက်ဒရယ်ပြည်ထောင်စုဘဏ်သည် တမျိုးတစားတည်းသော ငွေစက္ကူနှင့် ငွေဒင်္ဂါးများ ထုတ်လုပ်ရမည်။

## ပုဒ်မ (၁၉၄) လူထုဆန္ဒဖော်ထုတ်ခြင်း

(က) နိုင်ငံသားတိုင်းသည် မိမိ၏ ထင်မြင်ယူဆချက်ကိုသော်လည်းကောင်း၊ အကြံ ပြုချက်ကိုသော်လည်းကောင်းတဦးတည်းဖြစ်စေ၊ စုပေါင်း၍ဖြစ်စေ စာဖြင့် ရေးသား၍ လက်မှတ်ရေးထိုးပြီး သက်ဆိုင်ရာအာဏာပိုင် (သို့တည်းမဟုတ်) လွှတ်တော်တရပ်ရပ်သို့ တင်သွင်းခွင့်ရှိသည်။

(ခ) အထက်ပုဒ်မခွဲ (က) နှင့် စပ်လျဉ်း၍ ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ဥပဒေပြဋ္ဌာန်းပေးရမည်။

## ပုဒ်မ (၁၉၅) ဌာနေမြေယာ (Native Title) သတ်မှတ်ခြင်း

(က) ဖက်ဒရယ်ပြည်ထောင်စု အဖွဲ့ဝင်ပြည်နယ်အသီးသီးတွင် နေထိုင်ကြသော ဌာနေတိုင်းရင်းသား လူနည်းစုများ၏ မိရိုးဖလာ နေထိုင်ပိုင်ဆိုင်ခဲ့ကြသည့် နယ်မြေကိုဖြစ်စေ၊ နယ်မြေ၏ တစိပ်တပိုင်းကိုဖြစ်စေ အဆိုပါ တိုင်းရင်းသား လူနည်းစု၏ ဌာနေမြေယာအဖြစ် သတ်မှတ်နိုင်သည်။

(ခ) ဌာနေမြေယာသတ်မှတ်ခြင်းကို သက်ဆိုင်ရာပြည်နယ်လွှတ်တော်၏ ဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ သတ်မှတ်ရမည်။

## ပုဒ်မ (၁၉၆) တရားခံလွှဲပြောင်းပေးအပ်ခြင်း

ပြည်နယ်တခုအတွင်း ပြစ်မှုကျူးလွန်ပြီးနောက် အခြားပြည်နယ်တခုသို့ ထွက်ပြေး ရောက်ရှိသွားသော တရားခံတဦးအား ဖမ်းဆီးရမိထားသော ပြည်နယ်အစိုးရထံမှ သက်ဆိုင်ရာပြည်နယ်အစိုးရက မိမိပြည်နယ်သို့ လွှဲပြောင်းပေးအပ်ရန် တောင်းဆို လာပါက တရားခံအား လွှဲပြောင်းပေးအပ်ရမည်။

သို့ရာတွင် ထိုသို့ လွှဲပြောင်းပေးအပ်စေရန်ကိစ္စကို ဖမ်းဆီးရမိထားသော ပြည်နယ် အစိုးရအား အတင်းအကြပ်ပြုမူခြင်း မရှိစေရ။

# အခန်း (၁၃)
# အသွင်ကူးပြောင်းရေးကာလဆိုင်ရာပြဋ္ဌာန်းချက်များ
# Transitional Provisions

## ပုဒ်မ (၁၉၇) တည်ဆဲဥပဒေများ

(က) တည်ဆဲဥပဒေ၊ နည်းဥပဒေများသည် ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ပယ်ဖျက်ခြင်း၊ ပြင်ဆင်ခြင်း မပြုသေးမီ ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့် မဆန့်ကျင်သမျှ အတည်ဖြစ်သည်။

(ခ) တည်ဆဲစည်းမျဉ်းဥပဒေ၊ စည်းကမ်းဥပဒေ၊ အမိန့်ကြေငြာချက်များ၊ ညွှန်ကြားချက်များနှင့် လုပ်ထုံးလုပ်နည်းများကို ဖက်ဒရယ်ပြည်ထောင်စုအစိုးရက ပယ်ဖျက်ခြင်း၊ ပြင်ဆင်ခြင်း မပြုသေးမီ ဤဖွဲ့စည်းပုံအခြေခံဥပဒေနှင့် မဆန့်ကျင်သမျှ အတည်ဖြစ်သည်။

## ပုဒ်မ (၁၉၈) တည်ဆဲတရားရုံးများ

အဆင့်ဆင့်သော တရားရုံးများသည် ဤဖက်ဒရယ်ပြည်ထောင်စုဖွဲ့စည်းပုံအခြေခံဥပဒေအရ တရားရေးစနစ်တရပ် ဖွဲ့စည်းပေါ်ပေါက်သည့်အထိ တရားစီရင်ပိုင်ခွင့် အာဏာများကို ဆက်လက်ကျင့်သုံးခွင့် ရှိစေရမည်။

## ပုဒ်မ (၁၉၉) ဝန်ထမ်းများ

ဤဖက်ဒရယ်ပြည်ထောင်စု ဖွဲ့စည်းပုံအခြေခံဥပဒေ အတည်မပြုမီက တာဝန်ထမ်းဆောင်လျှက်ရှိကြသော အစိုးရအမှုထမ်းအားလုံးသည် မူလရာထူးတာဝန်များအတိုင်း ဆက်လက် အမှုထမ်းဆောင်စေရမည်။

## ပုဒ်မ (၂၀၀) နိုင်ငံတကာနှင့်ချုပ်ဆိုထားသော စာချုပ်၊ စာတမ်းများ

(က) နိုင်ငံတကာဥပဒေများနှင့်အညီ သဘောတူချုပ်ဆိုထားသော နိုင်ငံတကာသဘောတူညီချက်များ၊ စာချုပ်စာတမ်းများမှအပ ဤဖက်ဒရယ်ပြည်ထောင်စု ဖွဲ့စည်းပုံအခြေခံဥပဒေ အတည်မပြုမီက မြန်မာနိုင်ငံအစိုးရ ပါဝင်ချုပ်ဆိုခဲ့သော စာချုပ်များနှင့်စပ်လျဉ်း၍ ဖက်ဒရယ်ပြည်ထောင်စုအစိုးရမှ ပြန်လည်သုံးသပ်ပြီး ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်သို့ တင်ပြရမည်။

(ခ) ဖက်ဒရယ်ပြည်ထောင်စုလွှတ်တော်က ထပ်မံအတည်ပြုသော စာချုပ်စာတမ်းများသာလျှင် ဆက်လက်အတည်ဖြစ်စေရမည်။

## ပုဒ်မ (၂၀၁) လူဦးရေသန်းခေါင်စာရင်းကောက်ယူခြင်း

အသွင်ကူးပြောင်းရေးကာလအတွင်း လူဦးရေသန်းခေါင်စာရင်း ကောက်ယူရေးလုပ်ငန်းကို အမြန်ဆုံးဆောင်ရွက်နိုင်ရေးအတွက် ယာယီ လူဦးရေသန်းခေါင်စာရင်းကောက်ယူရေး ကော်မရှင်တရပ် ဖွဲ့စည်းပြီး ဆောင်ရွက်စေရမည်။

## ပုဒ်မ (၂၀၂) ပြည်နယ်များ၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသများ၊ အမျိုးသားနယ်မြေများနှင့် ဖက်ဒရယ်ပြည်ထောင်စုနယ်မြေများဖွဲ့စည်းခြင်း

(က) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အခန်း (၃) ပုဒ်မ (၄၈) နှင့် (၄၉) အရ အမျိုးသားပြည်နယ်များ၊ အမျိုးသားများပြည်နယ်များ၊ ဖက်ဒရယ်ပြည်ထောင်စုနယ်မြေများဖြင့် ဖက်ဒရယ်ပြည်ထောင်စုကို ဖွဲ့စည်းနိုင်ရေးအတွက် ဖက်ဒရယ်ပြည်ထောင်စုအတွင်းရှိ တိုင်းရင်းသားလူမျိုးအသီးသီးတို့သည် ညှိနှိုင်းဆောင်ရွက်ရမည်။

(ခ) ဤဖွဲ့စည်းပုံအခြေခံဥပဒေ အခန်း (၃) ပုဒ်မ (၅၃) အရ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသများနှင့် အမျိုးသားနယ်မြေများ ဖွဲ့စည်းနိုင်ရေးအတွက် သက်ဆိုင်ရာပြည်နယ်များအတွင်း နေထိုင်ကြသောတိုင်းရင်းသား လူမျိုးအသီးသီးတို့သည် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဂ) တိုင်းရင်းသားလူမျိုးအသီးသီးတို့၏ ဆန္ဒသဘောထားအမှန်ကို ဖော်ထုတ်ရယူနိုင်ရန်အတွက် လိုအပ်သောဒေသများတွင် စုံစမ်းစစ်ဆေးရေးအဖွဲ့ကို ဖွဲ့စည်းတာဝန်ပေးအပ်၍ ဆောင်ရွက်ရမည်။

(ဃ) အဆိုပါ နယ်မြေဒေသအတွင်းရှိ သက်ဆိုင်ရာပြည်သူလူထု၏ ဆန္ဒသဘောထားကို ကောက်ယူပြီး ပြည်သူအများစု၏ ဆန္ဒနှင့်အညီ နယ်နိမိတ်ပိုင်းခြားသတ်မှတ်သည့်အတိုင်း အမျိုးသားပြည်နယ်များ၊ အမျိုးသားများပြည်နယ်များစာရင်းကို ဤဖက်ဒရယ်ပြည်ထောင်စုဖွဲ့စည်းပုံအခြေခံဥပဒေတွင် ထည့်သွင်းပြဋ္ဌာန်းရမည်။

